# ဘာသာပြန်သူ၏ အမှာစာ

ဤအကီဒဟ်သွဟာဝီကျမ်းသည် ယုံကြည်ချက်နှင့်ပတ်သက်သည့် ကျမ်းများတွင် ကမ္ဘာကျော်ကျမ်းကြီး တစ်ကျမ်းဖြစ်သည်။ မော်လဝီကျောင်း အတော်များများမှာလည်း သင်ရိုးညွှန်းတမ်းတွင် ထည့်ထားသည်။ ဤကျမ်းနှင့်ပတ်သက်၍ ပညာရှင်အမြောက်မြားက အဖွင့်ဋီကာ ရေးထားကြသည်။ ဤကျမ်းကို ဘာသာပြန်ရာတွင် အချို့မရှင်းလင်းသောနေရာများ၊ ရှင်းလင်းရန် လိုအပ်သည်ဟု ယူဆရသောနေရာများတွင် ကျွန်ုပ်သည် အောက်ခြေ ရှင်းလင်းချက်အနည်းငယ်စီ ထည့်ပေးထားပါသည်။

ဤကျမ်းနှင့်ပတ်သက်၍ အနည်းငယ် အလင်းပြရန်အတွက် ကျွန်ုပ်သည် ကမ္ဘာကျော်ဝဘ်ဆိုဒ် "အလ်အစ္စလာမ်စုအားလ်ဝဂျဝါးဗ်"မှ ဖြေဆို ရေးသားထားချက်ကိုသာ ဘာသာပြန်၍ အနည်းငယ် တင်ပြပေးလိုက်ပါမည်။ ယင်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

"ကျမ်းရှင်မှာ အိမာမ် မုဟဒ္ဒိစ် ဖကီးဟ် အဗူဂျအ်ဖရ် အဟ်မဒ်ဗင်န် မုဟမ္မဒ်ဗင်န်စလာမဟ် အလ်သွဟာဝီ ဖြစ်သည်။ သွဟာဝီဆိုသည်မှာ အီဂျစ်၏ ရွာတစ်ရွာဘက် ဆက်နွယ်ထားခြင်း ဖြစ်သည်။

သူသည် ပညာရှင်အများအပြားထံမှ ပညာဆည်းပူးခဲ့သည်။ ဆရာများ၏ အရေအတွက်မှာ (၃၀၀) ကျော်ပေသည်။

ပညာရှင်အမြားအပြားက သူ့ကို ချီးကျူးထားကြသည်။ အိဗ်နုယူနွတ်စ်က အမိန့်ရှိသည်။ "သွဟာဝီသည် ယုံကြည်စိတ်ချရသော၊ သေချာတိကျသော ဖိကဟ်ပညာရှင် တစ်ဦးဖြစ်သည်။ သူ့လိုလူ သူ့နောက်တွင် နောက်တစ်ဦး မရှိတော့ပေ"။

အလ္လာမဟ်ဇဟဗီက အမိန့်ရှိသည်။ "(သွဟာဝီသည်) ဖကီးဟ် မုဟဒ္ဒိစ် ဟာဖိဇ် အကျော်အမော် တစ်ဦးဖြစ်သည်။ သူသည် ယုံကြည်စိတ်ချရသော၊ သေချာတိကျသော ဖိကဟ်ပညာရှင်၊ ညဏ်ကောင်းသူ တစ်ဦးဖြစ်သည်"။

အိဗ်နုကဆီးရ်က အမိန့်ရှိသည်။ "သူသည် ယုံကြည်စိတ်ချရ၍ သေချာတိကျသော သူများအနက်မှ တစ်ဦးဖြစ်သည်။ အလွန်ကြီး ကျယ်သော ဟာဖိဇ်တို့အနက် တစ်ပါးအပါအဝင်ဖြစ်သည်"။

သူရေးသားခဲ့သော ကျမ်းတချို့ရှိသည်။ ယင်းကျမ်းများသည် အလွန် ဆန်းစစ်သုတေသနပြုပြီး စုဆောင်းရေးသားခဲ့သော အကျိုးများလှသည့် ကျမ်းများဖြစ်ပါသည်။ ယင်းကျမ်းများအနက် တစ်ခုမှာ "မအာနိယုလ်အာဆားရ်"ကျမ်း ဖြစ်သည်။ ထိုကျမ်းထဲတွင် အထောက်အထားများနှင့် တကွ ဖိကဟ်

ပညတ်ချက်များကို တင်ပြထားသည်။ ကွဲလွဲမှုများနှင့် အားသာသည့် အဆိုများ အကြောင်းလည်း ဆွေးနွေးထားသည်။ နောက်တစ်ကျမ်းမှာ "မုရှ်ကိလုလ်အာဆားရ်"ကျမ်း ဖြစ်သည်။ နောက်လည်း ရှိပါသေးသည်။

အိမာမ်ကြီးသည် ဟိဂျ်ရီ ၃၂၁ တွင် ကွယ်လွန်ခဲ့သည်။ ထို့နောက် အီဂျစ်ပြည် ကရာဖဟ်ဟူသော နေရာတွင် မြှုပ်နှံခြင်းခံရပါသည်။

သူ၏ ကိုယ်ရေးရာဇဝင်ကို ကြည့်ရန်- سير أعلام النبلاء ကျမ်း တွဲ ၁၅၊ စာ ၂၇-၃၃။ والنهاية البداية တွဲ ၁၁၊ စာ ၁၇၄)

ဒုတိယအချက်မှာ အိမာမ်သွဟာဝီရေးခဲ့သော ဤကျမ်းထဲတွင် ရှေးပညာရှင်စွဟာဗဟ်၊ သာဗိအီးန်၊ သဗအ်သာဗိအီးန်တို့နှင့် သူတို့နောက်လိုက် အဟ်လေ့စွန္နသ် ဝလ်ဂျမာအသ်အသင်းဝင်တို့၏ ယုံကြည်ချက်များကို ခြုံငုံ၍ တင်ပြထားပါသည်။ ဟနဖီ အိမာမ်ကြီးများ အတည်ပြုထားသော အချက်များ တင်ပြထားပါသည်။

အိမာမ်သွဟာဝီသည် အိမာမ်အဘူဟနီဖဟ်၏ မတ်ဇ်ဟဗ်ပေါ်တွင် ရှိခဲ့သည်။ သူ၏ ကျမ်းအမှာစာတွင် ထိုသဘောကို ဤသို့ တင်ပြထားပါသည်။

“ဤသည် အိမာမ်အဗူဟာနီဖဟ်၊ အိမာမ်အဗူယူစွဖ်၊ အိမာမ်မုဟမ္မဒ်တို့၏ လမ်းစဉ်နှင့်အညီ အဟ်လေ့စွန္နသ် ဝလ်ဂျမာအသ်၏ ယုံကြည်ချက်နှင့် ဒီးန်၏ အခြေခံတရားများနှင့် ပတ်သက်ပြီး ထိုအိမာမ်ကြီးများ ယုံကြည်လျှောက်လှမ်းသော အရာများကို ရေးသားဖော်ပြခြင်းပင် ဖြစ်သည်။”

ထို့နောက် အိမာမ်ကြီးက ဤယုံကြည်ချက် အရင်းအမြစ်များကို စတင်တင်ပြသည်။ ထိုသို့တင်ပြရင်း ယေဘုယျအားဖြင့် အဟ်လေ့စွန္နသ်ဝလ်ဂျမာအသ် အားလုံး ယုံကြည်သည့် အချက်ပေါင်း ၁၅၀ တိုင်တိုင် ရောက်ရှိသွားသည်။ ဦးစွာ ပထမ အိမာမ်ကြီးသည် အလ္လာဟ်အရှင်မြတ်၏ တစ်ဆူတည်းတည်ရှိခြင်းနှင့် အရှင်မြတ်၏ ဖန်ဆင်းမွေးမြူခြင်းဆိုင်ရာ ဂုဏ်ရည် တချို့ကို တင်ပြသည်။ ပမာအားဖြင့် ရှင်သန်ခြင်း၊ ရပ်တည်ခြင်း၊ ဖန်ဆင်းခြင်း၊ ကျွေးမွေးခြင်း။ ထို့နောက် အရှင်မြတ်၏ ပြည့်ဝသည့် ဂုဏ်ရည် ဝိသေသများကို ခိုင်းနှိုင်းမှုမပါ၊ ပုံစံမပါဘဲ အတည်ပြုခြင်းကို တင်ပြသည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်က (စူရဟ် ရှူရဟ် ၁၁ မှာ အမိန့်ရှိထားသည်။

لَيْسَ كَمِثْلِهِ شَيْءٌ وَهُوَ السَّمِيعُ البَصِيرُ

ထိုအရှင်မြတ်နှင့် ပမာတူ မည်သည့်အရာမျှမရှိပေ။ ထိုအရှင်သည် အလွန်ကြားတော်မူသော အလွန် မြင်တော်မူသော အရှင်ဖြစ်သည်။

ထို့နောက်တွင် မုဟမ္မဒ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်) သည် တမန်တော်ဖြစ်ကြောင်း အီမာန် သက်ဝင်ယုံကြည်ရမည့် အကြောင်း၊ ကိုယ်တော်မြတ်ကို တစ်လောကလုံးအတွက် စေလွှတ်တော်မူခြင်းပေါ် ယုံကြည်ရမည့် အကြောင်းတို့ကို တင်ပြသည်။ ထို့နောက် ကုရ်အာန်၏ ဖွင့်ဆိုမှု၊ ကုရ်အာန်သည် အလ္လာ့ဟ်စကား ဖြစ်ကြောင်း၊ အဖန်ဆင်းခံ မဟုတ်ကြောင်း၊ အလ္လာဟ် အရှင်မြတ်ကို နောင်တမလွန်တွင် မြင်ရမည်ဖြစ်ကြောင်းတို့ကို တင်ပြသည်။

ထို့နောက် အဟ်လေ့စွန္နသ်ဝလ်ဂျမာအသ်ဝင်တို့ ယုံကြည်ကြသည့် အကွယ်ကိစ္စများ- ပမာအားဖြင့် ဟောင်ဇေကောင်ဆရ်၊ ရှဖာအသ် (ကြားဝင်အသနားခံပေးမှု)၊ အရ်ရှ်တော်၊ ကုရ်စီတော်တို့ကို တင်ပြသည်။ ထို့နောက် အီမာန်၏ မဏ္ဍိုင်များဖြစ်သည့် သတ်က်ဒီးရ် သတ်မှတ်ချက်နှင့် ဆက်စပ်သည့် အရာများကို တင်ပြသည်။ ထို့နောက် အီမာန်၏ ဖွင့်ဆိုမှု၊ အီမာန်၏ မဏ္ဍိုင်၊ အီမာန်မှာ အတိုးအလျော့ရှိခြင်းတို့ကို တင်ပြပြီး အဟ်လေ့စွန္နသ်တို့၏ လမ်းစဉ်ကို ခဝါရိဂျ်နှင့် မုရ်ဂျိအဟ်တို့၏ လမ်းစဉ် ကြားမှနေ၍ ရှင်းသည်။ ထို့အတူ

စွဟာဗဟ်သာဝကများနှင့် ပတ်သက်၍ အဟ်လေ့စွန္ဒသ်တို့ မည်သို့ ရပ်တည်ကြောင်းနှင့် သူတို့ကို အချစ်ထားခြင်းသည် သာသနာနှင့် အီမာန်ထဲက အချက်ဖြစ်ကြောင်း၊ သူတို့ကို အမုန်းထားခြင်းသည် ကုဖ်ရ်နှင့် သာသနာ့အရေခြုံမှု၊ အမိန့်ဖီဆန်မှုဖြစ်ကြောင်းတို့ တင်ပြသည်။ ထို့နောက် ကိယာမသ်၏ လက္ခဏာတချို့နှင့် ကိယာမသ်နေ့တွင် ဖြစ်မည့်အရာတချို့တို့ကို တင်ပြသည်။ ထို့နောက် ဤသာသနာသည် အစွန်းနှစ်ဖက်မှ လွတ်ကင်း၍ အလယ်အလတ်ကျကြောင်းကို တင်ပြရင်း ဤကျမ်းကို အဆုံးသတ်ထားသည်။

တတိယအနေနှင့် ဤအကီဒဟ်စာအုပ်သည် အရေးအသားလွယ်ကူသည်။ အဓိပ္ပာယ်ရှင်းသည်။ တို၍ ကျစ်လျစ်ပြည့်စုံသည်။ ဤကျမ်း၏ အများစု အချက်များပေါ်တွင် ပညာရှင်အားလုံး ညီညွတ်ကြသည်။

ပညာရှင်များစွာက ဤအကီဒဟ်ကျမ်းကို အကျယ်ဖွင့်ခြင်း၊ စကားလုံးများကို ရှင်းခြင်းစသည်တို့ အထူးလုပ်ကြသည်။ ထိုအကျယ် အဖွင့်ကျမ်းများတွင် အကျော်ကြားဆုံးကျမ်းမှာ အိဗ်နုအဗိလ်အိဇ် အလ်ဟနဖီ၏ ကျမ်းဖြစ်သည်။ သူက ရှည်လျားကျယ်ပြောအောင်ကို အဖွင့်ရေးခဲ့သည်။

စတုတ္ထအနေနှင့် ဤအကီဒဟ်ကျမ်းသည် အလွန် ကောင်းသည်ဟု ကျွန်ုပ်တို့ ရည်ညွှန်းခဲ့သော်လည်း ကျမ်းပါ အချက်

တချို့ကိုတော့ ရှေးပညာရှင်များနှင့် ဆန့်ကျင်သည့်အတွက် ဝေဖန်ခံထားရပါသည်။ ပမာအားဖြင့် အီမာန်ကို ဖွင့်ဆိုရာတွင် အိမာမ်ကြီးက ဤသို့ ပြောထားသည်။ "အီမာန်ဆိုသည်မှာ နှုတ်ဖြင့် ဝန်ခံခြင်းနှင့် စိတ်ဖြင့် ထောက်ခံခြင်းဖြစ်သည်"တဲ့။ အီမာန်ကို ဤလောက်နှင့်သာ တိမ်းတိမ်လိုက်ခြင်းသည် ခန္ဓာကိုယ်၏ လုပ်ဆောင်ချက်များကို အီမာန်၏ အရင်းအမြစ်မှ ထုတ်ထားကြသော မုရ်ဂျိအဟ် ဖုကဟာတို့၏ လမ်းစဉ်ဖြစ်သည်။

ထိုနည်းတူပင် ယင်းဝါကျပြီးနောက် ပြောထားသော စကား "အီမာန်သည် တစ်ခုတည်းသာ ဖြစ်သည်။ မုအ်မင်န်အားလုံးသည် အီမာန်၏ ရင်းမြစ်တွင် တန်းတူပင် ဖြစ်သည်"။

ထို့ပြင် ဤကျမ်းထဲတွင် အချို့ဗိဒ်အသီများက မိမိတို့၏ ရည်ရွယ်ချက်အတွက် အသုံးများသည့်၊ မှားယွင်းသော အဓိပ္ပာယ်ကို သက်ရောက်နိုင်သည့် အချို့ စာသားများလည်းပါသည်။ ယင်းတို့မှာ ရှေးသူတော်မွန်တို့၏ လမ်းစဉ်နှင့် ဆန့်ကျင်ပေသည်။ ပမာအားဖြင့်

"အရှင်မြတ်သည် အကန့်အသတ်၊ နယ်နမိတ်၊ မှူးကြီးမတ်ရာများ၊ အစိတ်အပိုင်း၊ ကိရိယာတို့မှ ကင်းစင်သည်။ အခြားနောက်ဖြစ် အရာများကဲ့သို့ အရှင်မြတ်သည် အရပ်မျက်နှာများအတွင်း မရှိပေ။" ကဲ့သို့သော စာသားများ။

ဤကဲ့သို့သော ဝါကျများကို သုံးသူများမှာ မုအသွေလဟ်များ ဖြစ်သည်။ ၎င်းတို့က အလ္လာဟ်အရှင်မြတ်၏ ပြည့်စုံမှုနှင့် ထိုက်တန်သော လှပသော ဂုဏ်ရည်ဝိသေသများ ပမာအား ဖြင့် မျက်နှာတော်၊ လက်တော်နှစ်ဖက်၊ မျက်လုံးနှစ်လုံး စ သည်ဖြင့် ကုရ်အာန်ကျမ်းတော်နှင့် ဟဒီးဆ်တော်များတွင် အရှင်မြတ်အတွက် အတည်ဖြစ်ထားသော အရာများကို ပယ် ဖို့အတွက် သူတို့ သုံးကြသည်။ ယင်းအရာများကို ၎င်းတို့က အစိတ်အပိုင်းများဟု သတ်မှတ်၍ အလ္လာဟ် အရှင်မြတ်ကို ယင်းအရာများမှ ကင်းစင်စေကြသည်။ ထို့ပြင် အလ္လာဟ် အရှင်မြတ်သည် မိမိ အဖန်ဆင်းခံများ၏ အထက်တွင်ရှိခြင်း၊ မိမိ၏ မိုးကောင်းကင်တွင် မိမိ၏ အရ်ရှ်ပလ္လင် ပေါ်ထက်တွင် ရှိနေခြင်းတို့ကိုလည်း ဤအရာများသည် အရပ်မျက်နှာနှင့် နေရာဖြစ်သည်ဟု သတ်မှတ်ကာ အရှင်မြတ်ကို ဤအရာ များမှ သန့်စင်အောင်လုပ်ကြသည်။

ထို့ကြောင့်မို့ ကျောင်းသားများအနေဖြင့် ဤယုံကြည်ချက် များကို မှန်ကန်သည့် အဟ်လေ့ စွန္နသ်ပညာရှင်များ၏ အဖွင့် များမှ ရယူသင့်ပေသည်။

**ဘာသာပြန်ဆိုသူ - ဆရာဖိုင်စွာလ်ကာစီမီ**

# အကီဒဟ်သွဟာဝိယာဟ်ကျမ်း

ဆရာသခင်အကြီးအကဲ၊ အိမာမ်ကြီး၊ ဖိကဟ်ပညာရှင်ကြီး၊ လူတို့၏ တံခွန်တော်၊ အစ္စလာမ့် အထောက်အထားကြီး အဗူဂျအ်ဖရ် အလ်ဝရ်ရားက်၊ အလ်သွဟာဝီ၊ အလ်မိစ်ရီက အမိန့်ရှိပါသည်။

ဤသည် အိမာမ်အဗူဟနီဖဟ်၊ အိမာမ်အဗူယူစွဖ်၊ အိမာမ်မုဟမ္မဒ်တို့၏ လမ်းစဉ်နှင့်အညီ အဟ်လေ့စွန္နသ်ဝလ်ဂျမာအသ်၏ ယုံကြည်ချက်ဖြစ်ပြီး ဒီးန်၏ အခြေခံ တရားများနှင့် ပတ်သက်ပြီး ထိုအိမာမ်ကြီးများ ယုံကြည်လျှောက်လှမ်းသော အရာများကို ဖော်ပြသည့်၊ အိမာမ် အဗူဂျအ်ဖရ် သွဟာဝီ၏ ဆင့်ပြန်မှု ဖြစ်သည်။

(အိမာမ် အဗူဂျအ်ဖရ်သခင်က မိန့်သည်။) သောင်ဟီးဒ် (အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကိုသာ ယုံကြည်ကိုးကွယ်ခြင်း)နှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်၏ သောင်ဖီးက် စွမ်းအားပေးမှုကို ယုံကြည်လျက် ကျွန်ုပ်တို့ ဤသို့ ပြောမည်။

**(၁)** အလ္လာဟ်အရှင်မြတ်သည် တုဖက်ကင်းသော တစ်ပါး တည်းသော အရှင်ဖြစ်သည်။

**(၂)** ထိုအရှင်မြတ်ကဲ့သို့ မည်သည့်အရာမှ မရှိ။

**(၃)** ထိုအရှင်မြတ်ကို မတတ်စွမ်းနိုင်အောင် လုပ်နိုင်သည့် အရာ ဟူ၍လည်း အလျင်းမရှိ။

**(၄)** ထိုအရှင်မြတ်မှတစ်ပါး အခြား ခဝပ်ကိုးကွယ်ခံထိုက် သည့် အရှင်ဟူ၍လည်း အလျှင်းမရှိ။

**(၅)** အရှင်မြတ်သည် အစမရှိဘဲ တည်ရှိခဲ့၍ အဆုံးမဲ့ တည် ရှိနေပေဦးမည်။

**(၆)** အရှင်မြတ်သည် ပျက်စီးခြင်း၊ ယိုယွင်းခြင်းမှ ကင်း သည်။

**(၇)** ထိုအရှင်မြတ် အလိုရှိသည့် အရာသာလျှင် ဖြစ်ရသည်။

**(၈)** မည်သည့် အတွေးအထင်မှ ထိုအရှင်မြတ်ထံကို မ ရောက်နိုင်သလို မည်သည့် နားလည်မှုမှလည်း ထိုအရှင်မြတ် ကို မိမိရရ နားမလည်နိုင်ပေ။

**(၉)** အဖန်ဆင်းခံများသည် ထိုအရှင်မြတ်နှင့် မတူပေ။

**(၁၀)** အမြဲရှင်နေတော်မူပြီး ဘယ်သောအခါမှ မသေဆုံးပေ။ အမြဲ နိုးကြားနေပြီး ဘယ်သောအခါမှ မအိပ်စက်ပေ။

**(၁၁)** မည်သည့် လိုလားတောင့်တမှုမှ မရှိဘဲ ဖန်ဆင်းတော်မူသောအရှင်၊ ပင်ပန်းခက်ခဲမှုမရှိဘဲ ကျွေးတော်မူသောအရှင်ဖြစ်သည်။

**(၁၂)** ဘာကိုမျှ ကြောက်စရာမလိုဘဲ သေစေတော်မူသောအရှင်၊ ပင်ပန်းခက်ခဲမှု မရှိဘဲ ပြန်လည် ရှင်စေတော်မူသောအရှင်ဖြစ်သည်။

**(၁၃)** ထိုအရှင်မြတ်သည် မည်သည့်အရာကိုမှ မဖန်ဆင်းခင်အလျင်ကပင် မိမိဂုဏ်တော် ဝိသေသများနှင့် အမြဲခွန်တွဲပြီး ရှိနေခဲ့သည်။ အဖန်ဆင်းခံတွေကို ဖန်ဆင်းလိုက်ခြင်းကြောင့် ထိုအရှင်မြတ်မှာ အလျင်ကမရှိခဲ့သည့် ဂုဏ်တော် ဝိသေသများဟူ၍ အနည်းငယ်မျှ တိုးလာသည်လည်းမရှိပေ။ ထိုအရှင်မြတ်သည် မိမိ ဂုဏ်တော်ဝိသေသများ၊ ဂုဏ်ရည်များနှင့် အလျင်ကတည်းက ဘယ်လိုရှိခဲ့သလဲ နောင်လည်း အမြဲထိုကဲ့သို့ပင် ရှိမည်။

**(၁၄)** ထိုအရှင်မြတ်သည် အဖန်ဆင်းခံများကို ဖန်ဆင်းလိုက်ပြီးမှ "အလ်ခါလိစ်က်" ဖန်ဆင်းရှင်ဟူသော အမည်ကို ရခဲ့

သည် မဟုတ်။ ၎င်းသက်ရှိများကို နမူနာ မရှိဘဲ စတင်ဖန်ဆင်းလိုက်ခြင်းကြောင့်လည်း "အလ်ဗာရီ"ဟူသော အမည်ကို ရခဲ့သည် မဟုတ်။

**(၁၅)** အရှင်မြတ်သည် မွေးမြူစောင့်ရှောက်ခြင်းဟူသော အနက်သဘောကို ပိုင်ဆိုင်ဖို့အတွက် မွေးမြူစောင့်ရှောက်မှုပြုစရာမလိုပေ။ ဖန်ဆင်းခြင်းဟူသော အနက်သဘောကို ပိုင်ဆိုင်ဖို့အတွက်လည်း အဖန်ဆင်းခံကို မလိုပေ။

**(၁၆)** အရှင်မြတ်သည် သူသေများကို ရှင်စေတော်မူပြီးနောက် ရှင်စေတော်မူသော အရှင်ဟူ၍ ဖြစ်သကဲ့သို့ ၎င်းတို့ကို ရှင်အောင် မလုပ်ခင်ကတည်းကလည်း ဤနာမည် ဂုဏ်ပုဒ်ကို ပိုင်ဆိုင်ထားသည်။ ဤသို့ပင် ၎င်းတို့ကို မဖန်ဆင်းခင်အလျင်ကတည်းက ဖန်ဆင်းရှင်ဆိုသည့် အမည်ဂုဏ်ပုဒ်ကို ပိုင်ဆိုင်ထားသည်။

**(၁၇)** အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် အရာတိုင်းကို တတ်စွမ်း နိုင်တော်မူသည်။ အရာတိုင်းသည် ထိုအရှင်မြတ်ကို လိုအပ်သည်။ ကိစ္စတိုင်းသည် ထိုအရှင့်အဖို့ လွယ်ကူသည်။ ထိုအရှင်က မည်သည့်အရာကိုမျှ မလိုအပ်။

"အရှင်မြတ်သည် မည်သည့်အရာနှင့်မျှ မတူဆင်ပေ။ အရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ မြင်တော်မူသော အရှင်ဖြစ်တော်မူသည်။" (ကုရ်အာန်-၄၂း၁၁)

**(၁၈)** ထိုအရှင်မြတ်သည် အဖန်ဆင်းခံများကို သိ၍ ဖန်ဆင်းတော်မူခဲ့သည်။

**(၁၉)** ထို့နောက် ၎င်းတို့အတွက် သက်ဒီး၏ သတ်မှတ် စီမံမှုတွေကို သတ်မှတ်တော်မူခဲ့သည်။

**(၂၀)** ၎င်းတို့အတွက် အချိန်ကာလများကို သတ်မှတ်တော်မူခဲ့သည်။

**(၂၁)** ၎င်းတို့ကို မဖန်ဆင်းခင်ကတည်းက ထိုအရှင်အဖို့ တစ်စုံတစ်ရာမျှ ဖုံးကွယ်နေသည်ဟူ၍ မရှိခဲ့ပေ။ ၎င်းတို့ကို မဖန်ဆင်းမီကပင် ၎င်းတို့ ပြုလုပ်မည့်အရာ အားလုံးကို ကြိုတင်သိနှင့်ခဲ့ပြီ။

**(၂၂)** ထိုအရှင်မြတ်သည် ၎င်းတို့ကို မိမိအမိန့်နာခံဖို့ အမိန့်ပေးခဲ့ပြီး မိမိကို ဖီဆန်ခြင်းမှ တားမြစ်ခဲ့သည်။

**(၂၃)** အရာရာတိုင်းသည် ထိုအရှင်၏သတ်မှတ်ချက်၊ အလိုဆန္ဒဖြင့် ဖြစ်နေသည်။ အရှင်၏ အလိုတော်သာလျှင် အတည်ဖြစ်သည်။ ထိုအရှင်မြတ်အလိုရှိမှ ထိုအရှင့်ကျွန်တွေ၏ အလိုဆန္ဒ အတည်ဖြစ်သည်။ အရှင်မြတ်က ၎င်းတို့အတွက် ဘာအလိုရှိသလဲ ထိုအရာသာဖြစ်သည်။ အရှင်မြတ် အလို မရှိပါက ထိုအရာသည် မဖြစ်ပေ။

**(၂၄)** အရှင်မြတ်က မိမိအလိုရှိသူကို လမ်းမှန်ပေးသည်၊ ကျေးဇူးပြု၍ ထိန်းသိမ်းသည်၊ ခွင့်လွှတ်သည်။ မိမိအလိုရှိသူကို လမ်းလွဲစေသည်၊ မကူညီဘဲ တရားသဖြင့် စမ်းသပ်သည်။

**(၂၅)** အရာခပ်သိမ်းသည် ထိုအရှင်၏ကျေးဇူးတော်နှင့် တရားမျှတမှုကြားမှာ ထိုအရှင့် အလိုဆန္ဒအတိုင်း ဖြစ်နေရသည်။

**(၂၆)** ထိုအရှင်မြတ်သည် ဆန့်ကျင်ဖက်များ၊ ဂုဏ်ရည်တူများမှ သန့်စင်၊ မြင့်မားတော်မူသည်။

**(၂၇)** အရှင်မြတ်၏ ဆုံးဖြတ်ချက်ကို ပယ်ချနိုင်သူမရှိ။ အရှင်မြတ်၏ အမိန့်ကို သုံးသပ်ပြုပြင်နိုင်သူမရှိ။ အရှင်မြတ်၏ လုပ်ငန်းဆောင်တာများအပေါ် ပိုင်စိုး ပိုင်နိုင်သူမရှိ။ လွှမ်းမိုးနိုင်သူမရှိ။

**(၂၈)** ထိုအရာတွေအားလုံးကို ကျွန်ုပ်တို့ယုံကြည်သည်။ ထိုအရာတွေအားလုံးသည် အရှင့်ဘက်မှ ဖြစ်သည်ဟုလည်း ကျွန်ုပ်တို့ ယုံကြည်သည်။

**(၂၉)** ထို့ပြင် မုဟမ္မဒ်(စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင် ရွေးချယ်သော အလ္လာဟ်၏ ကျေးကျွန် ဖြစ်ကြောင်း၊ နဗီဖြစ်ကြောင်း၊ အလ္လာဟ် နှစ်သက်ပြီးဖြစ်သော ရစူလ် ဖြစ်ကြောင်းကိုလည်း ကျွန်ုပ်တို့ ယုံကြည်သည်။

**(၃၀)** ထိုမုဟမ္မဒ် (စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်) သည် နောက်ဆုံး နဗီဖြစ်ကြောင်း၊ မုသ်သကီးန် သူတော်စင်တို့၏ ခေါင်းဆောင် ဖြစ်ကြောင်း၊ ရစူလ်တို့၏ ခေါင်းဆောင် ဖြစ်ကြောင်း၊ စကြဝဠာ အပေါင်း၏ အရှင်သခင်၏ အချစ်တော် ဖြစ်ကြောင်းကိုလည်း ကျွန်ုပ်တို့ ယုံကြည်သည်။ ကိုယ်တော့်အပေါ် မေတ္တာကရုဏာအဖြာဖြာ ခညောင်းပါစေ။

**(၃၁)** တမန်တော်မုဟမ္မဒ်(စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ နောက်တွင် နဗီဖြစ်ကြောင်း ကြွေးကြော်မှုတိုင်းသည် လမ်းလွဲခြင်းနှင့် စိတ်အလိုရမ္မက်နောက် လိုက်ခြင်းသာ ဖြစ်သည်။

**(၃၂)** ထိုတမန်တော်သည် အမှန်တရားနှင့် မှန်ကန်သော လမ်းညွှန်မှုတို့ဖြင့် လူသားအပေါင်း ၊ ဂျင်န်အပေါင်းတို့ဆီ စေလွှတ်ခြင်းခံရသော နဗီ ဖြစ်သည်။

**(၃၃)** မုချကေန် ကုရ်အာန်ကျမ်းသည် အလ္လာဟ်အရှင်မြတ်၏ စကားတော် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်ထံမှ မည်သို့မည်ပုံ အခြေအနေ မပါဘဲ စကားတော် အဖြစ်နှင့် ပေါ်ထွက်လာခဲ့သည်။ ထို့နောက် မိမိတမန်တော်အပေါ် ဗျာဒိတ်တော် အဖြစ်နှင့် ချပေးခဲ့သည်။ မုအ်မင်န်တို့က ထိုကိစ္စကို မှန်ကန်ကြောင်း ထောက်ခံကြသည်။ သူတို့က ဤသည် အလ္လာဟ်အရှင်မြတ်၏ စကားတော်အစစ် ဖြစ်သည်၊ အဖန်ဆင်းခံတို့၏ စကားကဲ့သို့ အဖန်ဆင်းခံ မဟုတ်ဟုလည်း ယုံကြည်ကြသည်။ ကုရ်အာန်ကို ကြားပြီး ထိုအရာသည် လူသား၏စကား ဖြစ်သည်ဟု ပြောသူသည် ကာဖိရ်ဖြစ်သည်။ ပြီးနောက် ထိုကဲ့သို့သော လူနှင့် ပတ်သက်ပြီး အလ္လာဟ်အရှင်မြတ်သည် ပြစ်တင်ရှုတ်ချထားပြီး ဂျဟန္နမ်နှင့် ခြိမ်းခြောက်ထားသည်။ အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူသည်။

“မကြာမီ ငါအရှင်မြတ်သည် သူ့အား “စကရ်” ဆိုသော ငရဲထဲသို့ ဝင်ရောက်စေတော်မူမည်။” (ကုရ်အာန်-၇၄း၂၆)

“ဤသည် လူသား၏ ပြောဆိုချက်မှလွဲ၍ အခြား မည်သည့် အရာမျှ မဟုတ်ပေ။”(ကုရ်အာန်-၇၄း၂၅) ဟု ပြောဆိုသူကို အလ္လာဟ်အရှင်မြတ်က ဂျဟန္နမ်နှင့် ခြိမ်းခြောက်ထားသည့် အတွက် ထိုကုရ်အာန်သည် လူသားကို ဖန်ဆင်းသော အရှင် မြတ်၏ စကားတော် ဖြစ်သည်၊ လူသား၏ စကားသည် ယင်း နှင့် မတူချေဟူ၍ ကျွန်ုပ်တို့သိရပါသည်။ ယုံကြည်ပါသည်။

**(၃၄)** အကြင်သူသည် အလ္လာဟ်အရှင်မြတ်ကို လူသား၏ အချင်းလက္ခဏာ တစ်ခုခုနှင့် ဖွင့်ဆိုသမုတ်ပါက ထိုသူသည် ကာဖိရ်ဖြစ်သည်။ ဒါကို စဉ်းစား ဆင်ခြင်သူသည် တရားသံ ဝေဂ ရယူမည်။ ကာဖိရ်တို့၏ စကားများကဲ့သို့ ပြောဆိုခြင်း မှ ရှောင်ကြဉ်မည်။ ထို့ပြင် အလ္လာဟ်သည် မိမိ၏ ဂုဏ်ရည် ဝိသေသများနှင့်အတူ လူသားကဲ့သို့ မဟုတ်ပေဟု မှတ်ထား ပေမည်။

**(၃၅)** ဂျန္နသ် ဝင်ရမည့်သူများသည် မည်သို့မည်ပုံဟူသော အခြေအနေ မပါဘဲ၊ ဝန်းရံခြင်း မရှိဘဲ အလ္လာဟ်အရှင်မြတ်ကို မြင်တွေ့ရမည်မှာ အမှန်တရား ဖြစ်သည်။ ဤအတိုင်းပင် ကျွန်ုပ်တို့ အရှင်၏ ကျမ်းတော်မြတ်က ဆိုထားသည်။

"ထိုနေ့တွင် မျက်နှာအမြောက်အမြားသည် ရွှင်လန်းနေကြမည်။ သူတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်ကို ဖူးမြော်နေကြမည်။" (ကုရ်အာန်-၇၅း ၂၂၊၂၃)

ဤအာယသ်၏ ဖွင့်ဆိုမှုသည် အလ္လာဟ်အရှင်မြတ် သိတော်မူသည့်အတိုင်း၊ ဆိုလိုသည့်အတိုင်း ဖြစ်သည်။ ဤသည်နှင့် ပတ်သက်၍ တမန်တော်မြတ်ထံမှ လာရှိသမျှသော မှန်ကန်သော ဟဒီးဆ်သြဝါဒတော်များသည် တမန်တော်ပြော၊ ဟောထားသည့်အတိုင်းပင် ဖြစ်သည်။ ထိုသြဝါဒများ၏ ဆိုလိုရင်းသည်လည်း တမန်တော် ဆိုလိုသည့်အတိုင်းပင် ဖြစ်သည်။ ထိုဆိုလိုချက်များအား ဖွင့်ဆိုရာတွင် ကျွန်ုပ်တို့၏ စိတ်အလိုအတိုင်း ကျွန်ုပ်တို့၏ ထင်ရာ၊ မြင်ရာများဖြင့် ကျွန်ုပ်တို့ မဖွင့်ဆိုပေ။ သာသနာ့ဘောင်အတွင်းမှာ အလ္လာဟ်နှင့် အလ္လာဟ့်တမန်တော်အတွက် ယုံပုံအပ်နှင်းသူ၊ မိမိအဖို့ မရှင်းလင်းသည့်အရာကို ထိုအရာအား သိသူထံ ပုံအပ်သူသာလျှင် ငြိမ်းချမ်းစွာ ရှိနေနိုင်မည်။

**(၃၆)**အစ္စလာမ်တည်းဟူသော ခြေသည် ယုံပုံအပ်နှင်း ယုံကြည်ခြင်း၏ ကျောပြင်ပေါ်မှာသာ မြဲမြံစွာရပ်တည်နိုင်မည်။ ဖုံးကွယ်ထားသည့် အသိကို သိလိုသောသူ၊ နားလည်မှုတွင်

ယုံပုံလွဲအပ်ခြင်းနှင့်သာ မရောင့်ရဲတတ်သူသည် ၎င်း၏ အလို ဆန္ဒက ၎င်းကို စစ်မှန်သော သောင်ဟီး၁်၊ သန့်ပြန့်သော အသိ နှင့် မှန်ကန်သော အီမာန်ရရှိခြင်းမှ တားဆီး ပိတ်ပင်ထားမည် ဖြစ်သည်။ သူသည် သွေဖည်မှုနှင့် ယုံကြည်မှုကြား၊ ထောက်ခံ မှုနှင့် ငြင်းဆန်မှုကြား၊ လက်ခံမှုနှင့် ငြင်းပယ်မှုကြားမှာ သံသ ယဝင်၍ ထောက်ခံခြင်းနှင့် ယုံကြည်ခြင်းလည်းမရှိ၊ အပြီး အပြတ် လက်မခံ၊ ငြင်းဆန် ခြင်းလည်းမရှိဘဲ ယောင်လည် လည်ဖြစ်နေမည်။

**(၃၇)** ဂျန္နသ်ဥယျာဉ်ဘုံနန်းသားတွေက အလ္လာဟ်အရှင်မြတ် ကို တွေ့မြင်ရမည် ဆိုသည့်အချက်ကို အထင်နှင့်မှတ်ယူသူ၊ မိမိနားလည်သလို ဖွင့်ဆိုသူ၏ အီမာန်သည် မမှန်ကန်ပေ။ အကြောင်းမှာ ထိုတွေ့မြင်ခြင်းကို ဖွင့်ဆို အကျယ်ပြန့်ခြင်း အပါအဝင် ဖန်ဆင်းမွေးမြူသော အရှင်နှင့် ပတ်သက်သည့် အရာတိုင်းကို အကျယ် မဖွင့်ဆိုဘဲ ပုံအပ်၍ယုံကြည်ခြင်းသာ အရေးကြီးသည်။ ဤအတိုင်းပင် နဗီမန်တော်များနှင့် မွတ်စ် လင်မ်တို့၏ လမ်းစဉ်ဖြစ်သည်။

အကြင်သူသည် "နဖီ" ခေါ် မရှိကြောင်း အတည်ပြုခြင်း နှင့် "သရ်ဗီးဟ်" ခေါ် ခိုင်းနှိုင်းခြင်းကို မကြဉ်ရှောင်ပါက ထိုသူ

သည် ချွတ်ချော်ပြီ။ ထို့ပြင် သူသည် "သန်ဇီးဟ်" ခေါ်ကင်းစင်ကြောင်း မှတ်ယူသည့် လမ်းစဉ်မှ လွဲပြီ။[1]

ကျွန်ုပ်တို့၏ ဖန်ဆင်းမွေးမြူရှင်သည် တစ်ပါးတည်း၊ တစ်ဆူတည်းဟူသော ဂုဏ်အရည်အချင်း ဝိသေသနှင့် ဂုဏ်ပြုအပ်သော အရှင်ဖြစ်ရာ ထိုအရှင်မြတ်နှင့် ဂုဏ်ရည် တူဆင်သူ တစ်ဦးတစ်ယောက်မျှ၊ တစ်စုံတစ်ခုမျှ မရှိပေ။

**(၃၈)**အလ္လာဟ်အရှင်မြတ်သည် အတိုင်းအတာ၊ လားရာနိဂုံး၊ ကိရိယာတို့၊ ခန္ဓာအစိတ်ပိုင်းတို့မှ ကင်းစင် မြင့်မားလှပေသည်။ ဘက်ခြောက်ဖက်သည် အရာဝတ္ထုများကို ဝန်းရံထားသကဲ့သို့ ထိုအရှင်ကို မဝန်းရံနိုင်ပေ။

**(၃၉)**မေ့အ်ရာဂျ်သည် အမှန်တကယ် ဖြစ်သည်။ တမန်တော်မြတ်ကို ညအခါမှာ ခေါ်သွားခြင်း ခံခဲ့ရသည်။ တမန်တော်

[1] ( نفي ဆိုသည်မှာ  အလ္လာဟ်က မိမိကိုယ်ကို ဖော်ပြထားသော ဂုဏ်ရည်ဝိသေသတစ်ခုခုကို မိမိက မရှိဘူးဟု ပြောဆိုခြင်း၊ သို့မဟုတ် အဓိပ္ပာယ်အရင်းကို လွှဲရှောင်ပြီး အခြားပုံစံဖြင့် ဖွင့်ဆိုခြင်းကို ခေါ်သည်။ تشبيه ဆိုသည်မှာ အလ္လာဟ်၏ ဇာတိတော်မှာဖြစ်စေ၊ လုပ်ရပ်တစ်ခုခုမှာဖြစ်စေ၊ ဂုဏ်ရည်ဝိသေသ တစ်ခုခုမှာဖြစ်စေ အလ္လာဟ်ကို အဖန်ဆင်းခံတစ်ခုခုနှင့် နှိုင်းယှဉ်မှတ်ယူ သမုတ်ခြင်းကို ခေါ်သည်။ تنزيه ဆိုသည်မှာ အလ္လာဟ်သည် ဘက်ပြိုင်များမှ သန့်စင်ကြောင်း၊ အဖန်ဆင်းခံတို့နှင့် တူဆင်ခြင်းမှ ကင်းစင်ကြောင်း ယုံကြည်သည့် လမ်းစဉ်ဖြစ်သည်။)

မြတ် (စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်) သည် ခန္ဒာနှင့်တကွ နိုး ကြားလျက် မိုးကောင်းကင်သို့ ခေါ်ဆောင်သွားခြင်း ခံခဲ့ရ သည်။ တဖန် ထိုမိုးကောင်းကင်မှ တစ်ဆင့် အလ္လာဟ်အရှင် မြတ် အလိုရှိသည့် အထက်ဆီသို့ ခေါ်သွားခြင်း ခံခဲ့ရသည်။ အလ္လာဟ်အရှင်မြတ် အလိုရှိသည့်အရာများနှင့် ဂုဏ်ပြုခြင်း ခံခဲ့ရသည်။ အလ္လာဟ်အရှင်မြတ် ချီးမြှင့်သော ဗျာဒိတ်တော် များဖြင့် ချီးမြှင့်ခြင်း ခံခဲ့ရသည်။ 53|11| (ထိုအသင်တို့ အဖော် ၏) စိတ်နှလုံးသည် တွေ့မြင်ခဲ့သော အရာများနှင့် စပ်လျဉ်း၍ မှားယွင်းခြင်း မရှိခဲ့ပေ။

အစမှာရော အဆုံးမှာပါ တမန်တော်မြတ် (စွလ္လလ္လာဟို့ အလိုင် ဟိဝစလ္လမ်)အပေါ် မင်္ဂလာအပေါင်း ခညောင်းပါစေ။

**(၄၀)**အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (စွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)အား မိမိ နောက်လိုက်သားများကို ကယ် တင်ရန် ပေးအပ်ချီးမြှင့်သော ရေကန်သည်လည်း အမှန်ပင် ဖြစ်သည်။

**(၄၁)**ဟဒီးဆ်တော်များတွင် ဆင့်ပြန်ချက် လာရှိထားသည့် အတိုင်း အွမ္မသ်သားများအဖို့ အလ္လာဟ်အရှင်မြတ်က ချန်

ထားပေးသော ကြားဝင် အသနားခံပေးခွင့်သည်လည်း အမှန်ပင် ဖြစ်သည်။

**(၄၂)** အာဒမ်နှင့် ၎င်း၏ သားစဉ်မြေးဆက်တို့ထံမှ အလ္လာဟ်အရှင်မြတ်က ယူထားသော ကတိ[2]သည်လည်း အမှန်ပင် ဖြစ်သည်။

**(၄၃)** အလ္လာဟ်အရှင်မြတ်သည် ဂျန္နသ်ကို ဝင်ရောက်ရမည့်သူများ၊ ဂျဟန္နမ်ကို လားရမည့်သူများ အားလုံးကို အရေအတွက်နှင့်တကွ အလျင်ကတည်းက သိပြီး ဖြစ်သည်။ ထိုအရေ

[2] (ထိုသို့ ကတိတော်ယူထားကြောင်း ကုရ်အာန် 7|172|မှာ ဤသို့ ဖော်ပြထားသည်။ "ထိုမှတစ်ပါး (အို-နဗီတမန်တော် အသင်သည် ပြန်လည်အောက်မေ့ သတိရပါလေ။) အခါတစ်ပါးတွင် အသင့်အရှင်မြတ်သည် အာဒမ်၏ သားမြေးတို့၏ ကျောက်ကုန်းမှ ၎င်းတို့၏သား မြေးတို့ကို ထုတ်ဆောင်တော်မူခဲ့လေသည်။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းတို့ကိုပင် ၎င်းတို့အပေါ်၌ သက်သေထားတော်မူ၍ ငါအရှင်မြတ်သည် အသင်တို့အား ဖန်ဆင်းတော်မူသော အရှင်မြတ်ပင် မဟုတ်ပါလောဟု မိန့်ကြားတော်မူခဲ့လေသည်။ ထိုအခါ ၎င်းတို့က အမှန်ပင် ဟုတ်ပါသည်၊ ကျွန်တော်မျိုးတို့ ကိုယ်တိုင် သက်သေခံကြပါသည်ဟု လျှောက်ထား (ဝန်ခံ)ခဲ့ကြကုန်၏။ (ယင်းသို့ သက်သေထားတော်မူခဲ့ခြင်းမှာ) အသင်တို့သည် ကိယာမတ်ခေါ် ရှင်ပြန်ထမည့်နေ့တွင် ကျွန်တော်မျိုးတို့သည် ဤသည်ကို မသိခဲ့ကြပါဟု မပြောကြရန်ပင်ဖြစ်သည်။")

အတွက်ထက် လျော့မည်လည်း မဟုတ်၊ ပိုမည်လည်း မဟုတ်ပေ။

**(၄၄)** ဤကဲ့သို့ပင် ၎င်းတို့ ပြုလုပ်မည့် အရာများကိုလည်း အရှင်မြတ်က ကြိုတင် သိပြီးဖြစ်သည်။ တစ်ဦးတိုင်းသည် မိမိ အဖန်ဆင်းခံရသည့် အရာအတွက် လွယ်ကူမှုရရှိသည်။[3] အမလ်ကျင့်ဆောင်မှုများသည် နိဂုံးအချုပ်ပေါ် မူတည်သည်။ ကံကောင်းသူသည် အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ချက်

[3] (၎င်း၏ အထောက်အထားမှာ ကုရ်အာန် ၉၂း၅၊၆၊ ၇၊ ၈၊ ၉၊ ၁၀ တို့ဖြစ်သည်။ " 92|5|သို့ဖြစ်ပေရာ မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် ပေးကမ်းလှူဒါန်းလေ၏။ ၎င်းပြင် ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့လေ၏။ 92|6|ထိုမှတစ်ပါး ထိုလူသည် ကောင်းမြတ်သော အရာကို ဟုတ်မှန်သည်ဟု ယုံကြည်လက်ခံလေ၏။ 92|7|သို့ဖြစ်လျှင် မကြာမီပင် ငါအရှင်မြတ်သည် ထိုသူအား လွယ်ကူမှုသို့ ပို့ပေးတော်မူသည်။ 92|8| သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် (ပေးကမ်းလှူဒါန်းခြင်း မပြုဘဲ) စေးနှဲ၏။ ၎င်းပြင် ထိုသူသည် (မိမိကိုယ်ကို) လိုလား တောင့်တခြင်း ကင်းမဲ့သည်ဟု ထင်မှတ်လေ၏။ 92|9|ထိုမှတစ်ပါး ထိုသူသည် ကောင်းမြတ်သော အရာကို မဟုတ်မမှန်ဟု ငြင်းဆိုလေ၏။ 92|10| သို့ဖြစ်လျှင် မကြာမီပင် ငါအရှင်မြတ်သည် ထိုသူအား ခက်ခဲမှုသို့ ပို့ပေးတော်မူမည်။")

ဖြင့် ကံကောင်းပြီး ကံဆိုးသူသည်လည်း အလ္လာဟ်အရှင်မြတ် ၏ သတ်မှတ်ချက်ဖြင့်သာ ကံဆိုးသည်။

**(၄၅)**သက်ဒီးရ်ဆိုသည်မှာ မိမိ အဖန်ဆင်းခံနှင့် ပတ်သက်သည့် အလ္လာဟ်အရှင်မြတ်၏ လျှို့ဝှက်ချက် ဖြစ်သည်။ ထိုလျှို့ဝှက်ချက်ကို အနီးမှာရှိသည့် ကောင်းကင် တမန်များသည်လည်း မသိ။ စေလွှတ်ခြင်းခံရသော တမန်တော်များသည်လည်း မသိ။ ထိုလျှို့ဝှက်ချက်၏ အနက်ထဲကို လိုက်ဖို့ကြိုးစားခြင်းသည် ဆုံးရှုံးမှုနှင့် လက်မဲ့ ဖြစ်ရခြင်း၏ အကြောင်းခံ ဖြစ်မည်။ ထို့ပြင် ဗီဆန် ပုန်ကန်သူတို့၏ အဆင့်ဖြစ်သည်။ ထိုလျှို့ဝှက်ချက်နှင့် ပတ်သက်၍ စဉ်းစားတွေးခေါ်ခြင်း၊ စူးစမ်းခြင်း၊ မတင်မကျ ဖြစ်ခြင်းတို့မှ ဝေးဝေးရှောင်ပါ။ အလ္လာဟ်အရှင်မြတ်သည် သက်ဒီးရ်နှင့် ပတ်သက်သည့် အသိကို မိမိ အဖန်ဆင်းခံတွေ မသိအောင် ဖုံးကွယ်ထားသည်။ အဲဒီနောက်ကို လိုက်လံ စူးစမ်းခြင်းမှလည်း တားမြစ်ထားသည်။ အလ္လာဟ်အရှင်မြတ်က ဤသို့ မိန့်ထားသည်။ 21|23| ထိုအရှင်မြတ်သည် မိမိ ပြုလုပ်တော်မူသော ကိစ္စများနှင့် စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်း ခံရတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့မူကား (မိမိတို့ ပြုလုပ်ကြသော အမှု ကိစ္စတို့နှင့် စပ်လျဉ်း၍) စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

အကြင်သူက "ဘာကြောင့်လုပ်ရလဲ"ဟု (အလ္လာ့ဟ်ကို) မေး ခွန်းထုတ်ပါက ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန် ၏ အမိန့်ကို ပယ်ချခြင်းသာ ဖြစ်သည်။ အကြင်သူသည် အလ္လာ့ဟ်ကျမ်းဂန်၏ အမိန့်ကို ပယ်ချပါက ထိုသူသည် ကာဖိရ် တစ်ဦး ဖြစ်သွားချေမည်။

**(၄၆)**ဤသည်တို့သည် နှလုံးသား လင်းဝင်းသော အလ္လာ့ဟ် အချစ်တော်များ လိုအပ်သည့် အရာများ ဖြစ်သည်။ ဤသည် အသိ ခိုင်မာသူတို့၏ အဆင့်ဖြစ်သည်။ အဘယ်ကြောင့်ဆို သော် အိလ်မ်အသိပညာသည် နှစ်မျိုးရှိသည်။ တစ်မျိုးမှာ အဖန်ဆင်းခံတို့တွင်ရှိသော အိလ်မ်အသိပညာ၊ နောက်တစ် မျိုးမှာ အဖန်ဆင်းခံတို့ မရနိုင်သော အိလ်မ်အသိပညာ ဖြစ် သည်။

ရှိသောအိလ်မ်ကို ငြင်းဆန်ခြင်းသည် ကုဖ်ရ်သွေဖည် ခြင်း ဖြစ်သလို မရနိုင်သော အိလ်မ်ကို ရနိုင်ကြောင်း ကြွေး ကြော်ခြင်းသည်လည်း ကုဖ်ရ် သွေဖည်ခြင်းပင် ဖြစ်သည်။ ရှိသော အိလ်မ်ကို လက်ခံခြင်းနှင့် မရနိုင်သော အိလ်မ်ကို

လိုက်မရှာဘဲ စွန့်လွှတ်ထားခြင်းဖြင့်သာ အီမာန်သက်ဝင် ယုံကြည်မှု အတည် ဖြစ်နိုင်မည်။[4]

**(၄၇)**ကျွန်ုပ်တို့သည် လောင်ဟော့မဟ်ဖူးဇ်ကို လည်းကောင်း၊ ကလောင်တံကို လည်းကောင်း၊ ထိုလောင်ဟော့မဟ်ဖူးဇ် သင်ပုန်းတွင် ရေးမှတ်ခြင်း ခံထားရသည့် အရာအားလုံးကို လည်းကောင်း သက်ဝင်ယုံကြည်သည်။ အရာတစ်ခုကို ဖြစ်မည်ဟု အလ္လာဟ်အရှင်မြတ်က ရေးမှတ်ထားလျှင် အဖန်ဆင်းခံ အားလုံးက ထိုအရာကို မဖြစ်မြောက်အောင် လုပ်နိုင်စွမ်းမရှိ။ ယင်းသင်ပုန်းတွင် အလ္လာဟ် အရှင်မြတ် မရေးမှတ်ထားသော အရာတစ်ခုကို အဖန်ဆင်းခံအားလုံးက ဖြစ်မြောက်အောင်

---

[4] (သက်ဒီးရ်၏ ဓမ္မစစ်သဘောတရား حقيقة ကို အလ္လာဟ်သာ သိတော်မူသည်။ လူတို့ ဘယ်လောက်ပဲ တွေးခေါ်ကြံဆပါစေ မသိနိုင်ပေ။ သို့သော် ကျွန်ုပ်တို့ ယုံကြည်ထားရမည်မှာ "အလ္လာဟ်သည် အရာတိုင်းကို သိထားသည်၊ ထို့နောက် ထိုအရာများကို ရေးမှတ်ထားသည်၊ ထို့နောက် ယင်းအရာများကို ဆန္ဒပြုတော်မူသည်၊ ထို့နောက် ယင်းအရာများကို ဖန်ဆင်းတော်မူသည်၊ ဖြစ်ပေါ်စေတော်မူသည်" ဟူ၍ ဖြစ်သည်။ ဤသည် သက်ဒီရ်၏ အဆင့် (၄) ဆင့်ဖြစ်သည်။ ထိုအဆင့် လေးဆင့်စလုံးကို အပြည့်အဝ ယုံကြည်မှသာ သက်ဒီရ်ကို ယုံကြည်ရာ ရောက်မည်။ မဟုတ်လျှင် သက်ဒီရ်ကို ယုံကြည်သူ မဖြစ်နိုင်ပေ။)

ဝိုင်း၍ ကြိုးစားမည်ဆိုလျှင်လည်း ထိုအရာ အထမြောက် အောင် စွမ်းဆောင်နိုင်ကြမည် မဟုတ်ပေ။ ကိယာမသ်နေ့ထိ ဖြစ်မည့် အရာဟူသမျှနှင့် ပတ်သက်ပြီး ရေးသားထားသော မင်သည် ခြောက်သွေ့သွားချေပြီ။ လူသားအတွက် မသတ် မှတ်ထားသည့် အရာသည် ၎င်းထံ ရောက်လာမည် မဟုတ်။ ထို့ပြင် လူသားထံ ရောက်မည့် အရာသည်လည်း မရောက်ဘဲ နေမည်မဟုတ်။

**(၄၈)** "မိမိ အဖန်ဆင်းခံများထဲမှ ဖြစ်ပျက်မည့် အရာမှန်သမျှ ကို ယင်းအရာ မဖြစ်ပျက်မီ အလျင်ကပင် အလ္လာဟ် အရှင် မြတ်က ကြိုတင်သိနှင့်ထားပြီး ထိုအရာတို့ကို ပြောင်းမရ အောင် မိမိအလိုဆန္ဒဖြင့် အခိုင်အမာ သတ်မှတ်ထားခဲ့ပြီ။ ထို အရာနှင့် ပတ်သက်၍ ပယ်ဖြတ်နိုင်သူ၊ သုံးသပ်ထိန်းညှိပေး သူ၊ ဖယ်ရှားနိုင်သူ၊ ပြုပြင်ပြောင်းလဲနိုင်သူ၊ တိုးနိုင်သူ၊ လျှော့ နိုင်သူဟူ၍ ထိုအရှင်၏ မြေနှင့် မိုးများတွင် တစ်ဦးတစ် ယောက်မျှ မရှိပေဟူသော အချက်ကို ဗန္ဒာကျေးကျွန်က သိ ထားရမည်။ ဖြစ်သည့် အရာသည် ထိုအရှင်မြတ် ဖြစ်စေမှသာ

ဖြစ်သည်။ ဖြစ်ရှိခြင်းသည်လည်း ကျကျနနနှင့် လှလှပပသာ ဖြစ်သည်။[5]

**(၄၉)** ဤယုံကြည်ချက်သည် အီမာန်၏ အဓိကအချက်နှင့် မအ်ရိဖသ်အသိတရား၏ အရင်းအမြစ် ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း ရှိကြောင်းနှင့် ထိုအရှင်မြတ်သာ မွေးမြူဖန်ဆင်း စောင့်ရှောက်သူ ဖြစ်ကြောင်း ထောက်ခံ အသိမှတ်ပြုခြင်းပင် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်က မိန့်ထားသည်။ 25|2| ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူခဲ့သည့်အပြင် ထိုအရာများကို နိူင်းချိန် တိုင်းဆထားတော်မူခဲ့လေသည်။ 33|38| စင်စစ် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည်ကား ကောင်းမွန်စွာ စီမံပြီးသား ဖြစ်ပေသတည်း။

**(၅၀)** သက်ဒီရ်နှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်နှင့် အငြင်းအခုံပြုသူ၊ ထိုသက်ဒီရ်နှင့် ပတ်သက်၍ တွေးခေါ်

---

[5] (27|88| (ဤသည်) အရာခပ်သိမ်းတို့ကို ခိုင်ခံ့အောင် ပြုလုပ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ လက်စွမ်းလက်စပင် ဖြစ်ပေသည်။ မလွဲကေန် ထိုအရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှတို့ကို ကောင်းစွာ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။)

စမ်းစစ်ဖို့ မိစ္ဆာအယူ နှလုံးသား ပိုင်ဆိုင်ထားသူသည် ပျက်စီးမည် မုချတည်း။ မိမိ၏ အဆင့်မမီသည့် အထင်နှင့် လျှို့ဝှက်ဖုံးကွယ်နေသည့် အရာကို ရှာဖွေသည့်အတွက် အပြစ်ကြီးသော လူလိမ်သာ ဖြစ်မည်။

**(၅၁)**အရ်ရှ်တော်နှင့် ကုရ်စီတော်သည်လည်း ကုရ်အာန်ကျမ်းတော်မြတ်ထဲမှာ မိန့်တော်မူထားသည့်အတိုင်း အမှန်ပင် ဖြစ်သည်။

**(၅၂)** ထိုအရှင်သည် အရ်ရှ်တော်နှင့် ယင်းအရ်ရှ်တော် အောက်ရှိသော အရာများမှ လုံးဝတောင့်တမှု ကင်းတော်မူသည်။

**(၅၃)** အလ္လာဟ်အရှင်မြတ်သည် အရာတိုင်းကို ဝန်းရံထားသည်။ ထို့ပြင် အရာတိုင်း၏ အထက်မှာ ရှိသည်။ ထိုအရှင်ကို မည်သည့် အဖန်ဆင်းခံမှ မဝန်းရံနိုင်ပေ။

**(၅၄)** ကျွန်ုပ်တို့သည် သက်ဝင်ယုံကြည်လျက်၊ ထောက်ခံလျက်၊ ပုံအောအပ်နှင်းလျက် ဤသို့ ပြောမည်။ အလ္လာဟ်အရှင်မြတ်သည် အိဗ်ရာဟီမ်ကို မိမိ၏ (ခလီးလ် မိတ်ဆွေရင်း)အဖြစ် သတ်မှတ်ထားသည်။ အလ္လာဟ်အရှင်မြတ်သည် မူဆာနှင့် စကားပြောတော်မူသည်။

**(၅၅)** ထို့ပြင် ကျွန်ုပ်တို့သည် မလာအိကဟ်ကောင်းကင်တမန်များနှင့် နဗီများကို သက်ဝင်ယုံကြည်သည်။ ရစူလ်တမန်တော်များအပေါ် ကျရောက်ခဲ့သည့် ကျမ်းဂန်များကိုလည်း သက်ဝင်ယုံကြည်သည်။ သူတို့ အားလုံးသည် ထင်ရှားသော အမှန်တရားပေါ်၌ ရှိခဲ့ကြကြောင်းကိုလည်း ကျွန်ုပ်တို့ သက်သေခံပါသည်။

**(၅၆)**ကျွန်ုပ်တို့နှင့် ကိဗ်လာဦးတည်ရာ တူပြီး နဗီတမန်တော် ယူဆောင်လာသည့် အရာတို့ကို အသိအမှတ်ပြု လက်ခံကြသူတွေ၊ တမန်တော်ပြောဆိုသမျှ၊ သတင်း ပေးသမျှကို ထောက်ခံကြသူတွေကိုသာ ကျွန်ုပ်တို့က မွတ်စ်လင်မ်၊ မုအ်မင်န်ဟု နာမည်တပ်ပါသည်။

**(၅၇)**ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပက်သတ်၍ နှိုက်နှိုက်ချွတ်ချွတ် စူးစမ်းခြင်း မလုပ်ကြပေ။[6] ကျွန်ုပ်တို့သည် သာသနာတော်အတွင်းမှာ အငြင်းအခုံ မလုပ်ကြပေ။

---

[6] ( အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ အလ္လာဟ် ကိုယ်တော်တိုင်နှင့် တမန်တော်မြတ်တို့က သတင်းပေး၊ မိန့်ကြားထားကြသည့်အတိုင်း မလွဲမသွေ ကျွန်ုပ်တို့ ယုံကြည်ရမည်။ ကိုယ့်အတွေးအခေါ်များနှင့် အထွန့်မတက်ဘဲ ပြောထားသည့်အတိုင်း မျက်စိစုံမှိတ်၍ ယုံကြည်ရမည်။ အကြောင်းမှာ ထိုကိစ္စသည် အကွယ်ကိစ္စ ဖြစ်သည်။)

**(၃၈)** ထို့ပြင် ကျွန်ုပ်တို့သည် ကုရ်အာန်နှင့် ပတ်သတ်၍ အငြင်းအခုံ မလုပ်ကြပေ။ ကုရ်အာန်သည် စကြဝဠာကို ဖန်းဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ စကားတော် ဖြစ်ကြောင်း ကျွန်ုပ်တို့ သက်သေထွက်ဆိုသည်။ ထိုကျမ်းကို ယုံကြည်စိတ်ချရသော စေတမန်တော် ဂျိဗ်ရီလ်က ယူဆောင်လာပြီး ရစူလ်တမန်အပေါင်း၏ ခေါင်းဆောင် မုဟမ္မဒ် (စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)အား သင်ကြားပေးခဲ့သည်။ ထိုကျမ်းသည် အလ္လာဟ်အရှင်မြတ်၏ စကားတော်ဖြစ်ရာ မည်သည့် အဖန်ဆင်းခံ၏ စကားမျှ ထိုစကားတော်အဆင့်ကို မရောက်နိုင်ချေ။ ကုရ်အာန်သည် အဖန်းဆင်းခံ ဖြစ်သည်ဟု ကျွန်ုပ်တို့ မပြောပေ။ မွတ်စ်လင်မ် အုပ်စုကြီးနှင့် ကျွန်ုပ်တို့ မဆန့်ကျင်ပေ။

**(၃၉)**ကျွန်ုပ်တို့သည် မွတ်စ်လင်မ်တစ်ဦးကို သူ၏ အပြစ်တစ်ခုခုကြောင့်- ၎င်းက ထိုအပြစ်ကို ဟလာလ်(လုပ်ပိုင်သည်)ဟု မမှတ်ယူသရွေ့- ကာဖိရ်သွေဖည်သူဟု မသတ်မှတ်ပေ။[7]

[7] (အကြောင်းမှာ တားမြစ်ထားသည့် အရာကို သိပါလျက် ဟလာလ်ဟု ယုံကြည်ယူဆခြင်းသည် အကီဒဟ်ယုံကြည်မှု ပျက်စီးနေခြင်း ဖြစ်သည်။ ထို့ကြောင့် ကာဖိရ်ဖြစ်သည်။ အပြစ်ကျူးလွန်ရုံ သက်သက်နှင့်တော့ ကာဖိရ် မဖြစ်ပေ။ ဖာစိစ်က်သာ ဖြစ်သည်။)

**(၆၀)** အီမာန် ရှိနေသရွေ့ မည်သည့် အပြစ်ကို ကျူးလွန်ကျူး လွန် မည်သည့် ဆိုးကျိုးမျှ မရှိဟုလည်း ကျွန်ုပ်တို့မပြောပေ။[8]

**(၆၁)** (မုအ်မင်န်များအနက်) သူတော်ကောင်းများကို အလ္လာဟ်အရှင်မြတ်က ခွင့်လွှတ်မည်ဟု ကျွန်ုပ်တို့ မျှော်လင့်သည်။ (သို့သော်) ၎င်းတို့အတွက် စိုးရိမ်တာတော့ စိုးရိမ်ရသည်။ ၎င်းတို့သည် မုချ ဂျန္နသ်ရမည်ဟု ကျွန်ုပ်တို့ ပြောဆိုသက်သေခံခြင်း မလုပ်ကြပေ။ မုအ်မင်န်တို့အနက် အပြစ်ကျူးလွန်သူတွေအဖို့ ကျွန်ုပ်တို့ လွတ်ငြိမ်း ချမ်းသာခွင့် တောင်းခံပေးမည်။ ၎င်းတို့အတွက် ကျွန်ုပ်တို့ စိုးရိမ်သည်။ သို့သော် မက်ကင်းလို့ကား မရချေ။

**(၆၂)** (အလ္လာဟ်အရှင်မြတ်၏ ဖမ်းဆီး အရေးယူမှုကို) စိုးရိမ်စိတ် ကင်းခြင်းနှင့် (အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ) မက်ကင်းခြင်းသည် အစ္စလာမ့်လမ်းစဉ် မဟုတ်ပေ။ မွတ်စ်လင်မ်တို့အဖို့ မှန်သော လမ်းစဉ်ကား ထိုအခြေအနေ နှစ်ရပ်ကြားမှာ ရှိသည်။

---

8 (ထိုသို့ပြောသူများမှာ မုရ်ဂျိအဟ် ဂိုးဏ်သားများ ဖြစ်ကြသည်။)

**(၆၃)**မုအ်မင်န် ကျွန်သည် ၎င်းကို အီမာန်၏ ဘောင်ထဲသို့ ဝင်စေခဲ့သော အရာကို ငြင်းပယ်မှသာ ၎င်းသည် အီမာန်၏ ဘောင်အပြင်သို့ ရောက်သွားမည်ဟု ကျွန်ုပ်တို့ ဆိုမည်။[9]

**(၆၄)**အီမာန်ဟူသည် နှုတ်လျှာဖြင့် မြွက်ဆို၍ နှလုံးသားနှင့် ထောက်ခံခြင်း ဖြစ်သည်။

**(၆၅)**အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ကျမ်းထဲမှာ ချပေး ထားသမျှသည် အမှန်တွေချည်း ဖြစ်သည်။ ထို့ပြင် တမန် တော်မြတ် (စွလ္လလ္လာဟို့ အလိုင်ဟိ ဝစလ္လမ်) မှ မှန်ကန်စွာ

---

[9] (ဤအပိုဒ်သည် ခဝါရိဂျ်နှင့် မုအ်သဇိလဟ် ဂိုးဏ်ဝင်များကို ချေပထား ခြင်း ဖြစ်သည်။ လူသားသည် ဂိုနာဟ်ကဗီရာဟ် အပြစ်ကြီးကို ကျူးလွန် ပါက သူသည် ကာဖိရ် ဖြစ်သွားပြီဟု ပထမဂိုးဏ်ဝင်များက ဆိုကြသည်။ ဒုတိယ ဂိုးဏ်ဝင်များက ဆိုကြသည်မှာ ထိုသို့သော သူသည် အီမာန်ထဲမှ တော့ ထွက်သွားပြီး "ကုဖ်ရ်" သွေဖည်မှုထဲကိုတော့ မဝင်သေးပါဟူ၏။ သူတို့သည် ကြားထဲက အဆင့်အတန်း ဟူ၍ ကိုယ့်စိတ်ကူး စိတ်သန်းနှင့် သတ်မှတ်လိုက်ကြသည်။ အမှန်တရား ဘက်တော်သားများကတော့ ထိုသို့ မဟုတ်ပေ။ ကြားအဆင့်အတန်း သတ်မှတ်ခြင်းကို လက်မခံကြ ပေ။ အကြောင်းမှာ လူသည် ကာဖိရ်ဖြစ်လျှင် ဖြစ်မည်။ မုအ်မင်န် ဖြစ်လျှင် ဖြစ်မည်။ ကြားဆိုတာမရှိ။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။ (ကုရ်အာန် ၆၄း၂) "ထိုအရှင်မြတ်ပင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့ သော အရှင်ဖြစ်တော်မူသည်။ ထို့နောက် အသင်တို့ထဲမှ အချို့သည် ငြင်း ပယ်သူ ဖြစ်ပြီး အသင်တို့ထဲမှ အချို့သည် ယုံကြည်သူ ဖြစ်သည်။"

ရောက်ရှိ လာသမျှသော ပြဋ္ဌာန်းချက်များနှင့် ရှင်းလင်းချက်များသည်လည်း အမှန်တွေချည်း ဖြစ်သည်။

**(၆၆)** အီမာန်သည် တစ်ခုတည်း ဖြစ်သည်။ အီမာန် သက်ဝင်ယုံကြည်ခြင်းမှာ အီမာန်ရှင်တွေ အားလုံး အတူတူပင် ဖြစ်သည်။[10] တစ်ဦးထက်တစ်ဦး သာပို မွန်မြတ်ခြင်းသည် သတ်က်ဝါတရား လက်ကိုင်ထားခြင်း၊ စိတ်အလို မလိုက်ခြင်း၊ အကောင်းဆုံးပေါ်မှာ ရပ်တည်ခြင်းတို့ကြောင့်သာ ကွဲပြားသည်။

**(၆၇)** အီမာန်ရှင် အားလုံးသည် အလ္လာဟ်အရှင်မြတ်၏ အချစ်တော်များ ဖြစ်ကြသည်။ ၎င်းတို့အနက် အလ္လာဟ်အရှင်မြတ်ထံတော်တွင် ဂုဏ်သိက္ခာ အရှိဆုံးသူမှာ အလ္လာ့ဟ်အမိန့် အနာခံဆုံးသူနှင့် ကုရ်အာန်ကျမ်းတော် နောက်ကို အလိုက်ဆုံးသူ ဖြစ်သည်။

**(၆၈)** အီမာန် ယုံကြည်ခြင်းဆိုသည်မှာ အလ္လာဟ် အရှင်မြတ်နှင့် အလ္လာ့ဟ်ကောင်းကင်တမန်များ၊ အလ္လာ့ဟ်ကျမ်းဂန်များ၊

---

[10] အီမာန်ရှင် ဖြစ်ခြင်းမှာတော့ အားလုံး တူကြပေသည်။ သို့သော် ကျင့်သုံးမှုများအပေါ် အခြေခံ၍ တစ်ဦးနှင့် တစ်ဦး အီမာန်မြင့်ခြင်း၊ အီမာန် နိမ့်ခြင်းမှာတော့ ကွာကြသည်။ ကုသိုလ်ကောင်းမှုများကြောင့် အီမာန်က တိုးသည်။ မကောင်းမှုများကြောင့် အီမာန်က လျော့ပေသည်။

ရစူလ်တမန်တော်များ၊ နောက်ဆုံးနေ့၊ သေပြီးနောက် ပြန်ရှင် ထရမည့်အကြောင်း၊ အဆိုးအကောင်း အချိုးအခါး သက်ဒီရ် သတ်မှတ်ချက်တို့သည် အလ္လာဟ် ဘက်တော်မှ ဖြစ်ကြောင်း တို့ကို သက်ဝင် ယုံကြည်ခြင်းတို့ ဖြစ်ပေသည်။[11]

**(၆၉)** ထိုအချက်များ အားလုံးကို ကျွန်ုပ်တို့ သက်ဝင်ယုံ ကြည်သည်။ ထိုအရှင့် ရစူလ်တော်တွေကို ကျွန်ုပ်တို့ ခွဲခြား ခြင်း မလုပ်ပေ။ ၎င်းတို့ ယူဆောင်လာသမျှကို ကျွန်ုပ်တို့ ထောက်ခံသည်။

**(၇၀)** တမန်တော် မုဟမ္မဒ် (စွလ္လလ္လာဟို့ အလိုင်ဟိ ဝစလ္လမ်)၏ အွမ္မသ်သားများထဲမှ သောင်ဟီးဒ်ကို လက်ခံယုံ ကြည်သူများအဖြစ်၊ အလ္လာဟ်အရှင်မြတ်ကို သိသူများအဖြစ် နှင့် သေဆုံးသွားကြသော အပြစ်ကြီး ကျူးလွန်ခဲ့သူများသည် သောင်ဗဟ် မလုပ်ခဲ့လင့်ကစား ဂျဟန္နမ်တွင် အမြဲမနေရပါ။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အလိုဆန္ဒနှင့် အမိန့် အောက်မှာသာ ရှိမည်။ အလ္လာဟ်အရှင်မြတ်သည် အလို

---

[11] (ဤအချက်များကို ကုရ်အာန်နှင့် ဟဒီးဆ်တွင် လာရှိထားသည့်အတိုင်း အတိုးအလျှော့မလုပ်ဘဲ အကျဉ်းရော အကျယ်ရော ယုံကြည်ရမည်။ ဤ အချက်များထဲက တစ်ခုခုကို ငြင်းဆိုလိုက်ပြီ ဆိုလျှင် မုအ်မင်န် မဟုတ် တော့ပေ။)

ရှိပါက ၎င်းတို့ကို မိမိကျေးဇူးတော် သက်သက်ဖြင့် ခွင့်လွှတ်တော်မူမည်။ ဤအတိုင်းပင် အရှင်မြတ်က မိန့်ထားသည်။ {၄း၄၈} သို့ရာတွင် ထိုတွဲဖက်ယှဉ်ပြိုင် ကိုးကွယ်မှုမှတစ်ပါး အခြား ပြစ်မှု ဒုစရိုက်တို့ကိုမူကား မိမိ အလိုရှိတော်မူသော သူအား လွတ်ငြိမ်း ချမ်းသာခွင့် ပေးသနားတော်မူအံ့။

**(၇၁)** အလ္လာဟ်အရှင်မြတ် အလိုရှိပါက ၎င်းတို့၏ ပြစ်မှုနှင့်အညီ ၎င်းတို့ကို မိမိ၏ မျှတမှုဖြင့် အပယ်ငရဲတွင် ပြစ်ဒဏ်ပေးမည်။ ထို့နောက် အပယ်ငရဲမှ ၎င်းတို့ကို မိမိ ကရုဏာသက်သက်ဖြင့် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် အမိန့်နာခံသူတို့၏ အသနားခံပေးမှုဖြင့် လည်းကောင်း ထုတ်ပေးတော်မူပြီး မိမိ ဂျန္နသ်ထဲသို့ ပို့ပေးတော်မူမည်။

**(၇၂)** အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် မိမိအပေါ် သက်ဝင် ယုံကြည်သူတို့ကို တာဝန်ယူထားပြီး ဖြစ်သည်။ သူတို့ကို နှစ်ဘဝ နှစ်ဌာနတွင် အလ္လာဟ်အရှင်မြတ်၏ တာဝန်ယူမှုနှင့် လမ်းမှန်ပေးမှုတို့ကို ဆုံးရှုံးလိုက်ကြပြီး ငြင်းပယ်ခဲ့ကြကုန်သော သူများကဲ့သို့ အရှင်မြတ်က ပြုလုပ်တော်မူမည် မဟုတ်ပါ။

အိုအစ္စလာမ်နှင့် အစ္စလာမ် သာသနာဝင်တို့ကို တာဝန်ယူထား သော အရှင် ကျွန်ုပ်တို့ကို အလ္လာဟ်အရှင်နှင့် တွေ့ဆုံရသည် အထိ အစ္စလာမ်ပေါ်မှာ မြဲမြံစွာထားတော်မူပါ။

**(၇၃)**မုအ်မင်န်တွေထဲက ဆိုးသူဖြစ်စေ၊ ကောင်းသူဖြစ်စေ လူ တိုင်း၏ နောက်တွင် စွလာသ်ဝတ်ပြုရမည်၊ ထို့ပြင် ဆိုးသူ ဖြစ်စေ ကောင်းသူဖြစ်စေ သေဆုံးပါက သူ့အပေါ်မှာ စွလာသ် ဝတ်ပြုပေးရမည်ဟု ကျွန်ုပ်တို့ ယုံကြည် လက်ခံထားသည်။

**(၇၄)**၎င်းတို့အနက် မည်သူ တစ်ဦးတစ်ယောက်နှင့် ပတ်သက် ၍မျှ ၎င်းသည် ဂျန္နသ်သွားမည် (သို့မဟုတ်) ဂျဟန္နမ် သွားမည် ဟု ကျွန်ုပ်တို့ အတတ်မပြောပေ။ ၎င်းသူတို့ထံမှ နမိတ် လက္ခဏာ တစ်ခုခု မပေါ်လွင်သမျှ ကာလပတ်လုံး သူတို့သည် ကာဖိရ် ဖြစ်သည်၊ မုရှ်ရိက် ဖြစ်သည်၊ မုနာဖိက် အရေခြုံ ဖြစ်သည်ဟုလည်း ကျွန်ုပ်တို့ ပြောဆို သက်သေခံခြင်း မပြု ပေ။ ထို့ပြင် ၎င်းတို့နှင့် ပတ်သက်သည့် အတွင်းရေးတွေကို အလ္လာဟ်ထံ ပုံအပ်ရန်သာ ရှိသည်။

**(၇၅)** တမန်တော်မြတ် မုဟမ္မဒ် (စွလ္လလ္လာဟို အလိုင်ဟိဝ စလ္လမ်) ၏ အွမ္မသ်သားများထဲမှ မဖြစ်မနေ သတ်ဖြတ်ရမည့်

လူက လွဲ၍ အခြား တစ်ဦးတစ်ယောက်ကိုမျှ သတ်ဖြတ်ခြင်း မပြုပိုင်ဟု ကျွန်ုပ်တို့ လက်ခံ ယုံကြည်ထားသည်။

**(၇၆)** ကျွန်ုပ်တို့၏ ခေါင်းဆောင်များ၊ တာဝန်ခံများသည် ရက်စက် ကြမ်းကြုတ် နေလင့်ကစား ၎င်းတို့ကို ပုန်ကန်ခြင်း၊ ၎င်းတို့အပေါ် ကျိန်စာတိုက်ခြင်း၊ ၎င်းတို့ အမိန့်ကို ဖီဆန်ခြင်းတို့သည် မပြုပိုင်သည့်အပြင် ၎င်းတို့က အလ္လာဟ်အမိန့် ဖီဆန်မှုနှင့် ပတ်သက်၍ တစ်စုံတစ်ခုကို မစေခိုင်း သမျှကာလပတ်လုံး ၎င်းတို့၏အမိန့်ကို နာခံခြင်းသည် အလ္လာဟ်အမိန့်တော်ကို နာခံသလိုပင် ဖရ်ဇ်တာဝန် ဖြစ်သည်ဟု ကျွန်ုပ်တို့ လက်ခံယူဆထားသည်။ ၎င်းနောက် ထိုခေါင်းဆောင်များ ပြုပြင်ပြောင်းလဲမှု ရရန်နှင့် ခွင့်လွှတ်မှု ရရှိရန် ၎င်းတို့အဖို့ ကျွန်ုပ်တို့က ဆုမွန်ဒုအာ တောင်းပေးရမည်။

**(၇၇)** ကျွန်ုပ်တို့သည် စွန္နသ်နှင့် ဂျမာအသ်နောက်ကို လိုက်သည်။[12] ထို့ပြင် ကျွန်ုပ်တို့သည် ခွဲထွက်ခြင်း၊ ဆန့်ကျင်ဘက်ပြုခြင်းနှင့် ကွဲပြဲခြင်းတို့ကို ရှောင်ကြဉ်သည်။

---

[12] (စွန္နသ်ဆိုသည်မှာ တမန်တော်မြတ်၏ ကောင်းမွန်လှသော နမူနာ နည်းလမ်း ဖြစ်သည်။ ဂျမာအသ်ဆိုသည်မှာ တမန်တော့်အမိန့်နာခံကြသော၊ သာသနာ့အသိပညာရှင်များ ဖြစ်သည်။ ထိုသူတို့မှာ စွဟာဗဟ်များ၊

**(၇၈)** ကျွန်ုပ်တို့သည် တရားမျှတသူ၊ ယုံကြည်စိတ်ချရသူကို ချစ်သည်။ ရက်စက်ကြမ်းကြုတ်သူ၊ အလွဲသုံးစားလုပ်သူကို မုန်းသည်။

**(၇၉)** ထို့ပြင် ရှင်းလင်းစွာ မသိရသည့် ကိစ္စနှင့် ပတ်သက်၍ အလ္လာဟ်သာလျှင် အသိဆုံး ဖြစ်သည်ဟု ကျွန်ုပ်တို့က ပြောသည်။

**(၈၀)** တမန်တော်မြတ်(စွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)၏ သင်ကြားမှုများတွင် လာရှိထားသကဲ့သို့ပင် ခရီးမှာဖြစ်စေ၊ ခရီးမှာ မဟုတ်သည် ဖြစ်စေ ခြေစွပ်ပေါ် မစဟ်လုပ် ပွတ်သပ်ခြင်းကို ကျွန်ုပ်တို့ လက်ခံထားသည်။

**(၈၁)** မွတ်စ်လင်မ့်ခေါင်းဆောင်များထဲမှ ကောင်းသည့် အာဏာပိုင်ဖြစ်စေ၊ ဆိုးသည့် အာဏာပိုင်ဖြစ်စေ ၎င်းတို့၏ ဦးဆောင်မှု အောက်မှနေ၍ ဟဂ်ျပြုခြင်းနှင့် ဂျိဟားဒ် လုပ်ခြင်းသည် ကိယာမသ်နေ့တိုင်အောင် ရှိနေမည်။ ထိုဟဂ်ျနှင့် ဂျိဟားဒ်ကို မည်သည့် အရာမှ ပျက်သုဉ်းအောင် လုပ်နိုင်မည်လည်းမဟုတ်၊ ဖျက်သိမ်းနိုင်မည်လည်းမဟုတ်။

---

သာဗိအီးန်များနှင့် သူတို့နောက်ကို စိတ်သဘောရိုး ဖြူဖြူနဲ့ လိုက်ခဲ့ကြသောသူများ ဖြစ်သည်။)

**(၈၂)** ကိရာမာန် ကာသိဘီနိပ်ဟု ခေါ်သော ရေးသားနေသည့် ကောင်းကင်တမန်များနှင့် ပတ်သက်၍လည်း ကျွန်ုပ်တို့ သက်ဝင်ယုံကြည်သည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ကို ကျွန်ုပ်တို့အပေါ် ကိုယ်စောင့်များအဖြစ် သတ်မှတ်ပေးထားသည်။

**(၈၃)** လောကသားတို့၏ ဝိညာဉ်ကို နုတ်သိမ်းဖို့ တာဝန်ခန့်အပ်ထားခံရသော သေမင်းတမန်နှင့် ပတ်သက်၍လည်း ကျွန်ုပ်တို့ သက်ဝင်ယုံကြည်သည်။

**(၈၄)** ကဗရ် အပြစ်ဒဏ်နှင့် ထိုက်တန်သူအဖို့ ကဗရ်အပြစ်ဒဏ် ရှိကြောင်းကို လည်းကောင်း၊ ကဗရ်ထဲတွင် မုန်ကရ် နကီရ်တို့သည် သေသူကို သူ၏ အရှင်၊ သူ၏ သာသနာ၊ သူ၏ နဗီနှင့် ပတ်သက်၍ မေးမြန်းမည်ကိုလည်းကောင်း ကျွန်ုပ်တို့သည် တမန်တော်နှင့် စွဟာဗဟ်အပေါင်းတို့မှ လာရှိထားသော သတင်းပေးမှုတွေအရ သက်ဝင်ယုံကြည်သည်။

**(၈၅)** ကဗရ်သည် ဂျန္နသ် ဥယျာဉ်များအနက် ဥယျာဉ် တစ်ခု ဖြစ်ချင် ဖြစ်မည်၊ သို့မဟုတ် ဂျဟန္နမ်၏ မီးတွင်းများအနက် မီးတွင်းတစ်ခု ဖြစ်ချင် ဖြစ်မည်။

**(၈၆)**ကျွန်ုပ်တို့သည် တဖန်ရှင်ပြန်ထရမည်ကို လည်းကောင်း၊ ကိယာမသ်နေ့မှာ အမလ် ကုသိုလ်ကောင်းမှု၊ မကောင်းမှုတို့၏ အစား ရမည်ကိုလည်းကောင်း၊ စာရင်းအင်း ပြသခြင်းနှင့် စစ်ဆေးခြင်း ခံရမည်ကို လည်းကောင်း၊ စာရင်းစာအုပ် ဖတ်ရမည်ကို လည်းကောင်း၊ အကျိုးဆုလာဘ်နှင့် အပြစ်ဒဏ်ခက်မှုကို လည်းကောင်း၊ စွေရာသ်တံတားနှင့် မီဇာန် ချိန်ခွင်ကိုလည်းကောင်း ယုံကြည်သက်ဝင်ပါသည်။[13] ရှင်ပြန်ထခြင်း ဆိုသည်မှာ ကိယာမသ် နေ့တွင် ခန္ဓာကိုယ်တွေ စုရုံးစေခြင်းခံရပြီး ပြန်လည်ရှင်သန်စေခြင်းကို ပြောပါသည်။

**(၈၇)** ဂျန္နသ်နှင့် ဂျဟာန္နမ်သည် ဖန်ဆင်းပြီးဖြစ်သော အရာနှစ်ခု ဖြစ်သည်။ ဘယ်သောအခါမှ ပျက်စီး ပျက်သုဉ်းသွားမည် မဟုတ်ပေ၊ အရှင်မြတ်သည် အဖန်ဆင်းခံတွေကို မဖန်ဆင်းမီကပင် ဂျန္နသ်နှင့် ဂျဟာန္နမ်ကို ဖန်ဆင်းခဲ့ပြီးနောက် ထိုဂျန္နသ်နှင့် ဂျဟာန္နမ်အတွက် ထိုက်တန်သည့် သူကိုလည်း ဖန်ဆင်းခဲ့သည်။

---

[13] (မီဇာန်ချိန်ခွင် ဆိုသည်မှာ ယင်းအတွင်း၌ မုအ်မင်န်သက်ဝင် ယုံကြည်ကြသူတို့၏ အမိန့်နာခံမှု၊ အမိန့်ဖီဆန်မှု၊ ကောင်းမှု၊ မကောင်းမှုတို့ကို ချိန်တွယ်ခြင်း ခံရမည်ကို ဆိုလိုသည်။)

**(၈၈)** အလ္လာဟ်အရှင်မြတ် အလိုရှိသူကို မိမိ ကျေးဇူးတော်ဖြင့် ဂျန္နသ်အတွက် ဖန်ဆင်းတော်မူပြီး မိမိအလိုရှိသူကို မိမိ၏ မျှတမှုဖြင့် ဂျဟန္နမ်အတွက် ဖန်ဆင်းတော်မူသည်။

**(၈၉)** တစ်ဦးတိုင်းသည် မိမိနှင့် ပတ်သက်ပြီး ဆုံးဖြတ်ပြီးသော အရာအတွက် လုပ်ဆောင်နေကြသည်။ ၎င်းနောက် မိမိ ဖန်ဆင်းခံရသော အရာဆီသို့ ရောက်ရှိမည်။

**(၉၀)** အကောင်းနှင့် အဆိုးသည် ဗန္ဒာဟ် ကျေးကျွန်တို့ အပေါ်တွင် သတ်မှတ်ပြီး ဖြစ်သည်။

**(၉၁)** တတ်စွမ်းနိုင်ခြင်း (၂)မျိုးရှိသည်။ တစ်မျိုးမှာ ၎င်းကို အကြောင်းခံပြီး လုပ်ရပ်ဖြစ်ပေါ်သည်။ ပမာဆိုသော် သောင်ဖီးက် (အလ္လာဟ်ဘက်မှ အကြောင်း ညီညွတ်အောင် ဖန်တီးပေးမှု၊ ကူညီမှု) ကဲ့သို့ ဖြစ်သည်။ ယင်းသောင်ဖီးက်သည် အဖန်ဆင်းခံ၏ အစွမ်းဖြစ်သည်ဟု ပြောလို့မပိုင်ပေ။ ထို သောင်ဖီးက်သည် လုပ်ရပ်နှင့် အမြဲ ဒွန်တွဲလျက်ရှိသည်။ ထို့ပြင် ကျန်းမာခြင်း၊ တတ်နိုင်ခြင်း၊ အစွမ်းအစ ရှိခြင်းနှင့် ခြေလက်ကိုယ်အင်္ဂါ အစိတ်အပိုင်းများ ကောင်းမွန်စွာ ရှိနေခြင်းတို့နှင့် သက်ဆိုင်သည့် တတ်စွမ်းနိုင်မှုမှာမူ လုပ်ရပ် မဖြစ်ပေါ်ခင်ကတည်းက ရှိသည်။ ခိုင်းစေမှုများသည် ဤ

နောက်ဆုံး တင်ပြပါ တတ်စွမ်းနိုင်မှုနှင့်သာ ပတ်သက်သည်။ ဤသည် အလ္လာဟ်အရှင်မြတ် အမိန့်ရှိထားသည့် အတိုင်းပင် ဖြစ်သည်။ 2|286| အလ္လာဟ်အရှင်မြတ်သည် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ထိုသူ၏ တတ်စွမ်းနိုင်မှုထက်ပို၍ တာဝန် ပေးတော်မမူချေ။

**(၄၂)** ဗန္ဒာဟ်ကျေးကျွန်တို့၏ လုပ်ရပ်တွေသည် အလ္လာဟ် အရှင်မြတ်၏ ဖန်ဆင်းမှု ဖြစ်ပြီး ဗန္ဒာဟ် ကျေးကျွန်တို့၏ ရွေးချယ်ရယူမှု ဖြစ်သည်။

**(၄၃)** အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့တတ်စွမ်းနိုင်သည့် အတိုင်းအတာကိုသာ တာဝန်ပေးထားသည်။ ၎င်းပြင် အလ္လာဟ်အရှင်မြတ် တာဝန်ပေးထားသည့် အတိုင်းအတာကို သာ ၎င်းတို့ တတ်စွမ်းနိုင်ကြသည်။[14] ဤသည် لا حول ولا قوة الا بالله العلي العظيم ၏ ရှင်းလင်းချက် ဖြစ်သည်။ မည်သူမဆို အလ္လာ့ဟ်အကူအညီ ပါမှသာလျှင် အလ္လာ့ဟ်အမိန့် ဖီဆန်မှုမှ ရှောင်ရှားနိုင်မည်၊ ကြံဆနိုင်မည်၊ လှူပ်ရှားနိုင်မည်ဟု ကျွန်ုပ်တို့ ပြောသည်။ အလ္လာဟ်အရှင်မြတ်က သောင်ဖီးက် ချီးမြှင့်

[14] အမှန်မှာ လူသားသည် အလ္လာဟ်အရှင်မြတ် ခိုင်းထားသည်ထက် ပို၍ လုပ်နိုင်ပါသည်။ အရှင်မြတ်ကသာ လွယ်ကူစေလိုသောကြောင့် အမိန့်များတွင် လျှော့ပေါ့ပေးထားပါသည်။

မှသာ မည်သူမဆို အလ္လာဟ်အမိန့်နာခံနိုင်မည်။ ထိုအရာ ပေါ်မှာ ရပ်တည်နိုင်မည် ဟုလည်း ကျွန်ုပ်တို့ပြောသည်။

**(၉၄)** အရာတိုင်းသည် အလ္လာဟ်အရှင်၏ သဘောဆန္ဒဖြင့် လည်းကောင်း၊ ထိုအရှင်၏ အသိတော်ဖြင့် လည်းကောင်း၊ ထိုအရှင်၏ ဆုံးဖြတ်သတ်မှတ်ခြင်းကြောင့် လည်းကောင်း ဖြစ်ပျက်နေသည်။ ထိုအရှင်မြတ်၏ သဘောဆန္ဒသည် အားလုံးသော သဘောဆန္ဒ၏ အထက်မှာ ရှိသည်။ ထိုအရှင်မြတ်၏ ဆုံးဖြတ်စီရင်ချက်သည် အကြံစည်မှန်သမျှ၏ အထက်မှာပဲ ရှိသည်။ ထိုအရှင်မြတ်က မိမိ အလိုရှိသည့် အရာကို လုပ်တော်မူသည်။ ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ မတရား မလုပ်ပေ။

**(၉၅)** အရှင်မြတ်သည် မကောင်းခြင်း၊ မမျှတခြင်း၊ မပြည့်စုံခြင်းနှင့် အပြစ်အနာ အဆာတို့မှ ကင်းစင်တော်မူပေသည်။ (ကုရ်အာန်-၂၁း၂၃) အရှင်မြတ်သည် အရှင်မြတ် ပြုလုပ်တော်မူသော ကိစ္စများနှင့် ပတ်သက်၍ စစ်ဆေး မေးမြန်းခြင်း ခံရမည် မဟုတ်ပေ။ ထို့ပြင် သူတို့ကမူ (သူတို့ ပြုလုပ်ကြသော အမှုကိစ္စများနှင့် ပတ်သက်၍) စစ်ဆေး မေးမြန်းခြင်းကို ခံကြရမည်ဖြစ်သည်။

**(၉၆)** အသက်ရှင်လျက် ရှိသော သူများက ဆုမွန်ဒုအာ တောင်းပေးခြင်း၊ စွဒကဟ် အလှူဒါန လုပ်ပေးခြင်းတို့ကို ပြုပါက သေသူများအတွက် အကျိုးရှိသည်။

**(၉၇)** အလ္လာဟ်အရှင်မြတ်သည် တောင်းဆုများကို လက်ခံတော်မူသည်။ လိုအပ်ချက်များကို ဖြည့်ဆည်း ပေးတော်မူသည်။

**(၉၈)** အလ္လာဟ်အရှင်မြတ်သည် အရာတိုင်းကို ပိုင်ဆိုင်တော်မူသည်။ အလ္လာဟ် အရှင်မြတ်ကို ဘယ်အရာကမှ မပိုင်ဆိုင်ပေ။ အလ္လာဟ်အရှင်မြတ်ကို မျက်စိ တစ်မှိတ်မျှပင် မလိုအပ်ဘဲ မနေနိုင်ကြပေ။ အကြင်သူသည် အလ္လာဟ် အရှင်မြတ်ကို မျက်စိ တစ်မှိတ်စာလောက် မလိုအပ်ဘဲ နေနိုင်သည်ဟု ထင်ပါက ထိုသူ ကာဖိရ် ဖြစ်သွားချေမည်။ ထို့ပြင် ပျက်စီးသူတို့တွင် အပါအဝင် ဖြစ်သွားချေမည်။

**(၉၉)** အလ္လာဟ်အရှင်မြတ်မှာ အမျက်ဒေါသ ဖြစ်ခြင်းလည်း ရှိသည်။ နှစ်သက်ခြင်းလည်း ရှိသည်။ သို့သော် အဖန်ဆင်းခံ တစ်ဦးတစ်ယောက်နှင့်မျှ မတူပေ။

**(၁၀၀)** တမန်တော်မြတ်(စွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သာဝကများအားလုံးကို ကျွန်ုပ်တို့ချစ်သည်။ ၎င်းတို့အနက်

တစ်ဦးတစ်ယောက်၏ အချစ်မှာမျှ ကျွန်ုပ်တို့ လွန်ကျူးခြင်း၊ အစွန်းရောက်ခြင်း မရှိပေ။ ၎င်းတို့အနက် တစ်ဦးတစ်ယောက်ကိုမျှ ကျွန်ုပ်တို့ မစွန့်လွှတ်ပါ။

**(၁၀၁)** ၎င်းတို့အား မုန်းသူ၊ ၎င်းတို့ကို မကောင်းပြောသူကို ကျွန်ုပ်တို့ မုန်းသည်။ ကျွန်ုပ်တို့သည် ၎င်းတို့နှင့် ပတ်သက်၍ အကောင်းကိုသာ ပြောသည်။ ၎င်းတို့အား ချစ်ခြင်းသည် သာသနာ ဖြစ်သည်။ အီမာန် ဖြစ်သည်။ စိတ်သဘောဖြူစင်ခြင်း ဖြစ်သည်။ ၎င်းတို့အား မုန်းတီးခြင်းသည် ကုဖ်ရ် (သွေဖည်ခြင်း)၊ သာသနာ့ အရေခြုံ၍ အယောင်ဆောင်ခြင်း၊ ဆိုးသွမ်းယုတ်မာခြင်း ဖြစ်သည်။

**(၁၀၂)** တမန်တော်မြတ်ပြီးနောက် ခလီဖဟ် ကိုယ်စားလှယ် အရိုက်အရာသည် ပထမဦးဆုံးအနေနှင့် အဗူဗကရ်သခင် အတွက် အတည်ဖြစ်သည်။ ၎င်းက အွမ္မသ်ထု တစ်ရပ်လုံးထက် ပိုသာမြတ်သောကြောင့် ဖြစ်သည်။ ထို့နောက် အုမရ်သခင်အတွက် အတည်ဖြစ်သည်။ ထို့နောက် အွစ်မာန်သခင်အတွက်၊ ထို့နောက် အလီသခင်အတွက် အတည်ဖြစ်သည်။ ၎င်းတို့သည် ဖြောင့်မတ် မှန်ကန်သော၊ လမ်းမှန်တရားကို ရရှိ

ထားကြသော ကိုယ်စားလှယ်တော်များ၊ ခေါင်းဆောင်ကြီး များ ဖြစ်ကြသည်။

**(၁၀၃)** တမန်တော်မြတ် (စွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)က နာမည်ကိုင်၍ ဂျန္နသ်၏ သတင်းကောင်း ပေးခဲ့သော (၁၀) ယောက်နှင့် ပတ်သက်၍ ကျွန်ုပ်တို့ကလည်း တမန်တော်မြတ်ကြီး သက်သေထွက်ဆို ပေးခဲ့သည့်အတိုင်း သက်သေထွက်ဆိုသည်။ တမန်တော်မြတ် (စွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)၏ စကားသည် မှန်ကန်သည်။ ထိုစွဟာဗဟ်တို့မှာ

(1) အဗူဗကရ် (رضي الله عنه)

(2) အုမရ် (رضي الله عنه)

(3) အွစ်မာန် (رضي الله عنه)

(4) အလီ (رضي الله عنه)

(5) သွကဲလ်ဟဟ် (رضي الله عنه)

(6) ဇုဗိုင်းရ် (رضي الله عنه)

(7) စအဒ်ဗင်န်ဝက္ကားစ် (رضي الله عنه)

(8) စအီးဒ်ဗင်န်ဇိုင်းဒ် (رضي الله عنه)

(9) အဗ္ဗဒွရ်ရဟ်မားန်ဗင်န်အောင်းဖ် (رضي الله عنه)

(10) အဗူအုဗိုင်ဒဟ် ဗင်န် ဂျရ်ရဟ် (رضي الله عنه) တို့ ဖြစ်ကြသည်။ ထိုအဗူအုဗိုင်ဒဟ် သခင်သည် ဤအွမ္မသ်၏ သစ္စာရှင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ် ၎င်းတို့အားလုံးကို ကျေနပ်နှစ်သက်ပါစေ။

**(၁၀၄)** အကြင်သူသည် တမန်တော်မြတ်(စွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)၏ သာဝကများနှင့် ပတ်သက်၍ လည်းကောင်း၊ တမန်တော်မြတ်၏ ဇနီးကြင်ရာတော်များနှင့် ပတ်သက်၍ လည်းကောင်း၊ တမန်တော်မြတ်၏ မြေးများနှင့် ပတ်သက်၍ လည်းကောင်း၊ ကောင်းသော စကားကိုသာဆိုပါက ထိုသူသည် သာသနာရေးတွင် အရေခြုံ အယောင်ဆောင် ဖြစ်ခြင်းမှ ကင်းစင်ပေသည်။

**(၁၀၅)** လွန်လေပြီးသော သာသနာ့ပညာရှင်များ၊ ၎င်းတို့၏ နောက်လိုက် ပုဂ္ဂိုလ်များ၊ ၎င်းတို့နောက် ရှိသော ဟဒီးဆ် ပညာရှင်များနှင့် သူတော်ကောင်းများ၊ ဖိကဟ်ပညာရှင်များ၊ အတွေးအခေါ် ပညာရှင်များနှင့် ပတ်သက်၍ အကောင်းသာပြောရမည်။ အကြင်သူသည် ၎င်းတို့ကို မကောင်းပြောပါက ထိုသူသည် လမ်းချော်နေသည်။

**(၁၀၆)** ကျွန်ုပ်တို့သည် မည်သည့် ဝလီသူတော်စင် တစ်ပါးကိုမျှ နဗီ တမန်တော်တွေထက် ပို၍ သာမြတ်သည်ဟု မပြောပေ။ နဗီ တမန်တော်တစ်ပါးသည် ဝလီသူတော်စင် အပေါင်းတို့ထက် ပို၍ သာမြတ်သည်ဟုသာ ကျွန်ုပ်တို့ပြောသည်။

**(၁၀၇)** ယုံကြည် စိတ်ချရသောသူများမှ ဆင့်ပြန်လာရှိထားသည့် မှန်ကန်သော ဆင့်ပြန်ချက်များတွင် ဖော်ပြထားသော ၎င်း(ဝလီ)တို့၏ ကရာမသ်များနှင့် ပတ်သက်၍ ကျွန်ုပ်တို့ ယုံကြည်သည်။

**(၁၀၈)** ကိယာမသ်၏ နိမိတ်လက္ခဏာများကို ကျွန်ုပ်တို့ သက်ဝင် ယုံကြည်သည်။ ထိုနိမိတ် လက္ခဏာများတွင် "ဒဂ်ျဂျာလ်" ထွက်ပေါ်ခြင်း၊ မိုးကောင်းကင်မှ အီဆာ နဗီဆင်းသက်ခြင်း၊ ယအ်ဂျူးဂ်ျ မအ်ဂျူးဂ်ျ ထွက်ပေါ်ခြင်းတို့သည်လည်း အပါအဝင် ဖြစ်သည်။ ထို့ပြင် အနောက် အရပ်မှ နေထွက်မည်ကိုလည်း ကျွန်ုပ်တို့ ယုံကြည်သည်။ မြေကြီးမှ သတ္တဝါတစ်ကောင်သည် သူထွက်ရမည့်နေရာမှ ထွက်လာမည်ကိုလည်း ကျွန်ုပ်တို့ သက်ဝင်ယုံကြည်သည်။

**(၁၀၉)** မည်သည့်နက္ခတ် ဗေဒင်ဟောပြောသူကိုမျှ မှန်ကန်သည်ဟု ကျွန်ုပ်တို့ မပြောဆိုပါ။ ထို့ပြင် ကုရ်အာန် ဟဒီးဆ်နှင့်

အစ်ဂ်ျမာအေ့အွမ္မသ်ကို ဆန့်ကျင်သော အရာတစ်ခုခုကို ကြွေးကြော်သူကိုလည်း ကျွန်ုပ်တို့ မထောက်ခံပါ။

**(၁၁၀)** စည်းလုံးညီညွတ်ခြင်းကို ဖြောင့်မတ်မှန်သော အရာဟု ကျွန်ုပ်တို့ မှတ်ယူသည်။ ကွဲလွဲခွဲထွက်မှုများသည် လမ်းလွဲခြင်းနှင့် အဇားဗ်ဖြစ်သည်ဟု ကျွန်ုပ်တို့ယူဆသည်။

**(၁၁၁)** မိုးကောင်းကင်နှင့် မြေပထဝီတွင် အလ္လာဟ် အရှင်မြတ်၏ သာသနာသည် တစ်ခုတည်းသာ ဖြစ်သည်။ ထိုသာသနာသည် အစ္စလာမ် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်က မိန့်တော်မူထားသည်။

3|19 မချွတ်ဧကန် အလ္လာဟ်အရှင်မြတ် အထံတော်၌ (နှစ်မြို့တော်မူပြီး ဖြစ်သော) ဒီန် သာသနာမှာမူကား အစ္စလာမ် သာသနာတော်ပင်တည်း။

"ငင်းပြင် ငါအရှင်သည် အစ္စလာမ်သာသနာကို အသင်တို့အဖို့ 'ဒီန်'သာသနာတော် အဖြစ် သဘောတူ နှစ်မြို့တော်မူခဲ့လေပြီ" ဟုလည်း အလ္လာဟ်က မိန့်တော်မူထားသည်။

**(၁၁၂)** ထိုအစ္စလာမ် သာသနာသည် လျော့လွန်းခြင်း၊ ပိုလွန်းခြင်းဟူသော အစွန်းရောက်ခြင်း နှစ်ခုကြားတွင် တည်ရှိသည်။ ထို့ပြင် အလ္လာဟ်ကို တစ်ခုခုနှင့် နှိုင်းခြင်းဟူသော သရှ်ဗီးဟ်

နှင့် အလ္လာဟ်အရှင်မြတ်မှာ ဘာမှ မရှိဟူသော သအ်သွီးလ်၏ ကြားတွင် ရှိသည်။ ထို့ပြင် လူသားသည် အစမ္မလုပ်ခံရသည် ဟူသော ဂျဗ်(ရ်)ဝါဒနှင့် မည်သည့် သတ်မှတ်ချက်မျှမရှိ၊ လုပ်ချင်တာလုပ်နိုင်သည် ဟူသော ကဒ်(ရ်)ဝါဒ၏ ကြားတွင် ရှိသည်။ ထို့ပြင် (အလ္လာ့ဟ်ပြစ်ဒဏ်မှ) စိုးရိမ်ကင်းခြင်းနှင့် (အလ္လာ့ဟ်ကရုဏာတော်မှ) မက်ကင်းခြင်း၏ ကြားတွင် ရှိသည်။

**(၁၁၃)** ဤသည် အတွင်းပိုင်းရော၊ အပြင်ပိုင်းရော ကျွန်ုပ်တို့၏ သာသနာနှင့် ကျွန်ုပ်တို့၏ ယုံကြည်ချက် ဖြစ်သည်။ ကျွန်ုပ်တို့ ဖော်ပြရှင်းလင်းခဲ့သော အရာများကို ဆန့်ကျင်သည့် သူတိုင်းသည် ကျွန်ုပ်တို့နှင့် ဘာမျှ မသက်ဆိုင်တော့ပေ။ ၎င်းတို့ကို အလ္လာဟ်အရှင်မြတ် ထံတော်၌သာ လွှဲအပ်ပါသည်။

အလ္လာဟ် အရှင်မြတ်သည် ကျွန်ုပ်တို့ကို အီမာန်ပေါ်မှာ စွဲမြဲစွာ ထားရန်နှင့် အီမာန်ဖြင့်သာ အဆုံးသတ်ရန် အလ္လာဟ် အရှင်မြတ်ထံ တောင်းဆိုပါ၏။ ၎င်းနောက် အမျိုးမျိုးသော စိတ်အလိုရမ္မက်များမှ ထိန်းသိမ်းပေးတော်မူရန်၊ ခွဲထွက်ကွဲလွဲနေသော အတွေးအထင်များနှင့် မုရှဗ်ဗိဟာ၊ မုအ်သဇိလာ၊

ဂျဟ်မီယာ၊ ဂျဗ်ရိယာ၊ ကဒ်ရိယာတို့၏ လမ်းစဉ်များလို ညံ့ဖျင်းသည့် လမ်းစဉ်များမှ ထိန်းသိမ်းပေးတော်မူရန်၊ ထို့ပြင် စွန္နသ်နှင့် ဂျမာအသ်ကို ဆန့်ကျင်သောသူများ၊ လမ်းလွဲကို လိုက်စားသူများ၏ လမ်းစဉ်လို ညံ့ဖျင်းသည့် လမ်းစဉ်များမှ ထိန်းသိမ်းပေးတော်မူရန် အလ္လာဟ် အရှင်မြတ်ထံ ကျွန်ုပ်တို့ တောင်းဆိုပါ၏။ ထိုသို့သော သူများမှ ကျွန်ုပ်တို့ ကင်းပါ၏။ ၎င်းတို့သည် ကျွန်ုပ်တို့ထံတွင် ညံ့ဖျင်းသူများ၊ လမ်းလွဲသူများ ဖြစ်ကြသည်။ အလ္လာဟ် အရှင်မြတ်သာလျှင် ထိန်းသိမ်းတော်မူသော အရှင်၊ သောင်ဖီးက်ပေးတော်မူသော အရှင် ဖြစ်သည်။

အလ္လာဟ် အရှင်မြတ်သည်သာလျှင် အမှန်တရားနှင့် ပတ်သက်၍ အသိဆုံး ဖြစ်တော်မူသည်။ ထို့ပြင် အားလုံးသည် အရှင်မြတ်ထံသို့သာလျှင် လှည့်ပြန်၍ သွားကြရမည်။

(နိဂုံးချုပ်အနေဖြင့်) တမန်တော်မြတ် (စွလ္လလ္လာဟို့ အလိုင်ဟိ ဝစလ္လမ်)နှင့် အိမ်သူအိမ်သားအပေါင်း၊ သာဝက အပေါင်းတို့အပေါ် ကောင်းချီးမင်္ဂလာအဖြာဖြာ ကျရောက်ပါစေ။ ထို့ပြင် ချီးမွမ်းခြင်းဟူသမျှသည် စကြဝဠာအပေါင်းကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်အတွက်သာ ဖြစ်သည်။

(ဤတွင် အိမာမ်သွဟာဝီ၏ အကီဒဟ်သွဟာဝိယာဟ်ကျမ်း ပြီးပါပြီ။)

**ဘာသာပြန်ဆိုသူ**

**ဆရာ ဖိုင်စွာလ် ကာစိမီ**